အိမ်တိုင်းရှိရမည့် စာအုပ်၊
လူတိုင်းသိရမည့်အချက်များ
သတင်းခေတ်၊ ပညာခေတ်မှာ
လွယ်ကူစွာ ဖတ်ရှုလေ့လာနိုင်အောင်
စုဆောင်းထားသည့်
သိမှတ်ဖွယ်ရာ
ဗဟုသုတအဖြာဖြာ စာအုပ်။

Knowledge



ဒီဇိုင်း – သက်ခိုင်ဝင်း

(၂၀၁၃) ဗဟုသုတအဖြာဖြာ သိမှတ်ဖွယ်ရာ

# သိမှတ်ဖွယ်ရာ ဗဟုသုတအဖြာဖြာ

# ( ၂၀၁၃ )



ပြန်ကြားရေးနှင့်ပြည်သူ့ဆက်ဆံရေးဦးစီးဌာန၊ စာတည်းအဖွဲ့
စုဆောင်းပြုစုသည်။

## ဒို့တာဝန်အရေးသုံးပါး

- ✪ ပြည်ထောင်စုမပြိုကွဲရေး — ဒို့အရေး
- ✪ တိုင်းရင်းသားစည်းလုံးညီညွတ်မှု မပြိုကွဲရေး — ဒို့အရေး
- ✪ အချုပ်အခြာအာဏာ တည်တံ့ခိုင်မြဲရေး — ဒို့အရေး

## yEyrwwr;

| | | |
|---|---|---|
| **x wa0 o** | - | 0;a t ;u , ? ñe u m;a&;rL;(x w v y) jye u m;a&;Ei jy n o q u q a&;0;p;Xme/ |
| **yEy o** | - | 0;jri0;? oe;oe;0;yEywu? 34 v r;? au muwwm; r e , ? &e u e r/ |
| **r;u Emz;'Zi;** | - | o u ci0i; |
| **t ya&** | - | 7000 |
| **yEyjci;** | - | 2013 cEp? ar v |
| **x wa0 o n t u r** | - | y x r t u r |

001

jye u m;a&;Ei jy n o q u q a&;0;p;Xme? pmw n; t z

orwz , &m A [ o w t jzmjzm (2013) ^ jye u m;a&;Ei jy n o q u q a&;0;p;Xme? pmw n; t z/ - &e u e?

jye u m;a&;Ei jy n o q u q a&;0;p;Xme? 2012/

440 - pm ? 13 piw × 20 piw/

(1) orwz , &m A [ o w t jzmjzm (2013)



**မာတိကာ**

သိမှတ်ဖွယ်ရာ ဗဟုသုတအဖြာဖြာ (၂၀၁၃)

## အမှာစာ

ပြန်ကြားရေးနှင့်ပြည်သူ့ဆက်ဆံရေးဦးစီးဌာနသည် ပြည်သူလူထု အသိဉာဏ်ဗဟုသုတပြည့်စုံစေရန်၊ ရာထူးဝင်ခွင့်စာမေးပွဲများ၊ သင်တန်းဝင်ခွင့်စာမေးပွဲများ ဖြေဆိုရာတွင် အထောက်အကူဖြစ်စေရန်နှင့် သိလိုသည့်အချက်များကို တစ်စုတစ်စည်းတည်း ရှာဖွေသိရှိနိုင်စေရန် ရည်ရွယ်ချက်တို့ဖြင့် သိမှတ်ဖွယ်ရာ ဗဟုသုတအဖြာဖြာစာအုပ်ကို ၂၀၀၈ ခုနှစ်မှစ၍ နှစ်စဉ်ထုတ်ဝေခဲ့ပါသည်။ ယခုနှစ်တွင်လည်း အချိန်ကာလနှင့်ကိုက်ညီသော အချက်အလက်များကို ဖြည့်စွက်ပြင်ဆင်ပြီး ထုတ်ဝေလိုက်ပါသည်။

ဤစာအုပ်တွင် မြန်မာနိုင်ငံ၏ သမိုင်းကြောင်းဖြစ်စဉ်များ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် သမ္မတအဖြစ်တာဝန်ထမ်းဆောင်ခဲ့သည့် ပုဂ္ဂိုလ်များနှင့် ဝန်ကြီးချုပ်အဖြစ် တာဝန်ထမ်းဆောင်ခဲ့သည့် ပုဂ္ဂိုလ်များ၊ ပထဝီဆိုင်ရာ အချက်အလက်များ၊ နိုင်ငံတော်သမ္မတ ဦးသိန်းစိန် ပြောကြားခဲ့သည့် မိန့်ခွန်း၊ အမှာစကားကောက်နုတ်ချက်များနှင့် ပေးပို့ခဲ့သော သဝဏ်လွှာကောက်နုတ်ချက်များ၊ အစိုးရဝန်ကြီးဌာနများ၊ ပြည်ထောင်စုအစိုးရအဖွဲ့၊ တိုင်းဒေသကြီးနှင့် ပြည်နယ်ဝန်ကြီးချုပ်များ၊ ပြည်ထောင်စုလွှတ်တော်မှ အတည်ပြု ခန့်အပ်ခဲ့သည့် ရာထူးနေရာနှင့်ပုဂ္ဂိုလ်များ၊ တိုင်းဒေသကြီးလွှတ်တော်နှင့် ပြည်နယ်လွှတ်တော် အသီးသီး၌ ခန့်အပ်ထားသော လွှတ်တော်ဥက္ကဋ္ဌများ၊ ဒုတိယဝန်ကြီးများ၊ တိုင်းဒေသကြီးနှင့် ပြည်နယ်အသီးသီး၌ ဖွဲ့စည်းထားသော ဝန်ကြီးဌာနများ၊ ပြည်ထောင်စု ရွေးကောက်ပွဲကော်မရှင်၊ ဘဏ္ဍာရေးကော်မရှင်၊ မြန်မာနိုင်ငံ အမျိုးသားလူ့အခွင့်အရေးကော်မရှင်၊ ကျေးလက်ဒေသဖွံ့ဖြိုးရေးနှင့် ဆင်းရဲနွမ်းပါးမှုလျှော့ချရေး ဗဟိုကော်မတီ၊ လုပ်ငန်းကော်မတီ၊ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံခန့်ခွဲရေး ဗဟိုကော်မတီ၊ ပြည်ထောင်စုလွှတ်တော် ပူးပေါင်းကော်မတီများ၊

ပြည်သူ့လွှတ်တော်နှင့် အမျိုးသားလွှတ်တော်တွင် ဖွဲ့စည်းထားသည့် ကော်မတီများ၊ ၂၀၁၂ ခုနှစ် မြန်မာနှင့် နိုင်ငံတကာဆက်ဆံရေး၊ အစိုးရအဆက်ဆက်က လွတ်ငြိမ်းချမ်းသာခွင့်ပေးခဲ့သည့် ဖြစ်စဉ်များ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အစိုးရသစ်လက်ထက်တွင် လွတ်ငြိမ်းချမ်းသာခွင့်ပေးခဲ့သော ဖြစ်စဉ်များ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အစိုးရလက်ထက် ငြိမ်းချမ်းရေးဆွေးနွေးမှုအခြေအနေများ၊ ပထမအကြိမ် ပြည်ထောင်စုလွှတ်တော်၊ ပြည်သူ့လွှတ်တော်၊ အမျိုးသားလွှတ်တော် ပုံမှန်အစည်းအဝေးများ၊ တိုင်းဒေသကြီးနှင့် ပြည်နယ်အသီးသီး၏ ဖွံ့ဖြိုးတိုးတက်မှုမှတ်တမ်းများ၊ တပ်မတော်ဆိုင်ရာ သိမှတ်ဖွယ်ရာများ၊ မြန်မာနိုင်ငံရဲတပ်ဖွဲ့ဆိုင်ရာ သိမှတ်ဖွယ်ရာများ၊ နိုင်ငံတကာရေးရာ သိမှတ်ဖွယ်ရာများ၊ မြန်မာနိုင်ငံ၏ နိုင်ငံခြားရေးမူဝါဒ၊ ဘာသာရေးဆိုင်ရာ သိမှတ်ဖွယ်ရာများ၊ ကျန်းမာရေးဆိုင်ရာ သိမှတ်ဖွယ်ရာများစသည်တို့ကို ဗဟုသုတဖြစ်ဖွယ် ဖော်ပြထားသည်။ လူတိုင်းသိထားသင့်သည်များကို စုစည်းထားသည့်အတွက် စာဖတ်သူများ အကျိုးရှိစေနိုင်သည့် စာအုပ်ကောင်းတစ်အုပ်ဖြစ်ပါသည်။

ထို့ကြောင့် ဗဟုသုတ ရှာမှီးလိုသူများ၊ ရာထူးဝင်စာမေးပွဲ ဖြေဆိုကြမည့်သူများ၊ ဆရာ၊ ဆရာမများ၊ ကျောင်းသား၊ ကျောင်းသူများ လက်ကိုင်ပြုထားရမည့် စာအုပ်ဖြစ်သည်။ အနာဂတ်နိုင်ငံတော်အတွက် လူချွန်လူကောင်းများ၊ ခေါင်းဆောင်ကောင်းများ၊ အသိပညာရှင်၊ အတတ်ပညာရှင်များ ပေါ်ထွန်းလာရေးအတွက် အထောက်အကူပြုမည်ဟု ယုံကြည်လျက် ထုတ်ဝေလိုက်ရပါသည်။

**စာတည်းအဖွဲ့**
**ပြန်ကြားရေးနှင့် ပြည်သူ့ဆက်ဆံရေးဦးစီးဌာန**



## မြန်မာနိုင်ငံ၏ သမိုင်းဖြစ်စဉ်

ဖြစ်ပေါ်ပြောင်းလဲခဲ့ရသော မြန်မာနိုင်ငံ၏ သမိုင်းဖြစ်စဉ်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | |
|---|---|---|
| အေဒီ ၁ ရာစု | ... | ဗိဿနိုး၊ ဟန်လင်း၊ သရေခေတ္တရာဒေသများတွင် ပဒေသရာဇ် နိုင်ငံငယ်များကို 'ပျူ' လူမျိုးများက ထူထောင်ခဲ့ကြသည်။ |
| ၁၀၄၄ - ၁၂၈၇ | ... | ပုဂံခေတ်၊ အနော်ရထာမင်း(၁၀၄၄- ၁၀၇၇)က ပထမမြန်မာနိုင်ငံတော်ကို ထူထောင်သည်။ |
| ၁၅၅၂ - ၁၅၉၅ | ... | တောင်ငူခေတ်၊ ဘုရင့်နောင်မင်းတရားကြီး (၁၅၅၂-၁၅၈၁)က ဒုတိယမြန်မာနိုင်ငံတော်ကို ထူထောင်သည်။ |
| ၁၇၅၂ - ၁၈၈၅ | ... | ကုန်းဘောင်ခေတ်၊ အလောင်းမင်းတရားကြီး (၁၇၅၂-၁၇၆၀)က တတိယမြန်မာနိုင်ငံတော်ကို ထူထောင်သည်။ |
| ၁၈၂၄ - ၁၈၂၆ | ... | အင်္ဂလိပ်-မြန်မာ ပထမစစ်ပွဲဖြစ်ပွားသည်။ |
| ၁၈၅၂ - ၁၈၅၄ | ... | အင်္ဂလိပ်-မြန်မာ ဒုတိယစစ်ပွဲဖြစ်ပွားသည်။ |
| ၁၈၈၅ | ... | အင်္ဂလိပ်-မြန်မာ တတိယစစ်ပွဲဖြစ်ပွားပြီးနောက် ဗြိတိသျှကိုလိုနီနယ်ချဲ့လက်အောက်သို့မြန်မာ နိုင်ငံ ကျရောက်ခဲ့သည်။ |
| ၁၉၀၆ | ... | ဗုဒ္ဓဘာသာကလျာဏယုဝအသင်း (ဝိုင်အမ်ဘီအေ) ကို ထူထောင်ကာ အမျိုး၊ ဘာသာ၊ သာသနာအတွက် ကြိုးပမ်းကြသည်။ ၁၉၁၈ ခုနှစ် ဒီဇင်ဘာ ၁၈ရက်၌ ဗြိတိသျှအစိုးရက ကရက်ဒေါက် စီမံကိန်းကို ထုတ်ပြန်သည်။ |

၁၆-၁၁-၁၉၁၉ ... မြန်မာ့ကုမ္မာရီအသင်းခေါ် မြန်မာအမျိုးသမီးသမဂ္ဂအသင်းကိုဖွဲ့စည်းသည်။

၁၉၂၀ အောက်တိုဘာ (၂၉-၃၁) ... ဗုဒ္ဓဘာသာကလျာဏယုဝအသင်းကြီး၏ အဋ္ဌမအကြိမ်ညီလာခံက မြန်မာပြည်လုံးဆိုင်ရာအသင်းချုပ်ကြီး (ဂျီစီဘီအေ) ဟူ၍ အမည်ပြောင်းသည်။

၁၉၂၀ ဒီဇင်ဘာ ၅ ... ရန်ကုန်တက္ကသိုလ် ပထမကျောင်းသားသပိတ်စတင်မှောက်သည်။

၁၉၃၀ မေ ၃၀ ... တို့ဗမာအစည်းအရုံး ထူထောင်သည်။

၁၉၃၀ ဒီဇင်ဘာ ၂၂ ... ဆရာစံဦးဆောင်သည့် တောင်သူလယ်သမားအရေးတော်ပုံ သာယာဝတီခရိုင်၊ ရေတိုက်ရွာမှ စတင်သည်။

၂၅-၂-၁၉၃၆ ... ရန်ကုန်တက္ကသိုလ် ဒုတိယကျောင်းသားသပိတ်မှောက်သည်။

၁၉၂၃ - ၁၉၃၇ ... ဒိုင်အာခီအုပ်ချုပ်ရေးကာလဖြစ်သည်။

၁-၄-၃၇ မှ ၁၀-၁၂-၄၂ ... ကိုးဆယ့်တစ်ဌာန အုပ်ချုပ်ရေးစနစ် ကျင့်သုံးချိန်ဖြစ်သည်။

၈-၁-၁၉၃၈ ... ချောက်ရေနံမြေသပိတ်စတင်သည်။ ၁၃၀၀ပြည့်အရေးတော်ပုံ ပေါ်ပေါက်သည်။

၂၇-၁၂-၁၉၄၁ ... ထိုင်းနိုင်ငံ၊ ဘန်ကောက်မြို့တွင် ဗမာ့လွတ်လပ်ရေးတပ်မတော် (ဘီအိုင်အေ) ဖွဲ့စည်းသည်။

၂၇-၇-၁၉၄၂ ... ဗမာ့လွတ်လပ်ရေးတပ်မတော်ကို ဗမာ့ကာကွယ်ရေး တပ်မတော် (ဘီဒီအေ) အဖြစ် ပြောင်းလဲဖွဲ့စည်းသည်။

၁-၈-၁၉၄၃ ... ဂျပန်တို့က အတုအယောင်လွတ်လပ်ရေးပေးသည်။

၂၇-၃-၁၉၄၅ ... ဖက်ဆစ်တော်လှန်ရေး စတင်ဆင်နွှဲသည်။

၁၉၄၅ - ၁၉၄၇ ... နယ်ချဲ့ဗြိတိသျှတို့၏ စက္ကူဖြူအုပ်ချုပ်ရေးခေတ်ဖြစ်သည်။

၁၉၄၇ ... ဆိုရှယ်လစ်ပြည်ထောင်စုကိုပြန်လည်ထူထောင်ရေး စီမံကိန်းများချမှတ်သည်။

၁၂-၂-၁၉၄၇ ... ပင်လုံသဘောတူညီချက်ကို ဗိုလ်ချုပ်အောင်ဆန်းနှင့် တိုင်းရင်းသားခေါင်းဆောင် ၂၂ ဦး လက်မှတ်ရေးထိုးသည်။



၄-၁-၁၉၄၈ ... မြန်မာနိုင်ငံလွတ်လပ်ရေးရရှိသည်။

၁၉၄၈ - ၁၉၅၀ ... ပါလီမန်ဒီမိုကရေစီစနစ်ကျင့်သုံးပြီး နိုင်ငံကိုအုပ်ချုပ်သည်။

၁၉၅၈ - ၁၉၅၉ ... တပ်မတော်က အိမ်စောင့်အစိုးရအဖြစ် နိုင်ငံကိုထိန်းသိမ်းစောင့်ရှောက်သည်။

၂-၃-၁၉၆၂ ... တော်လှန်ရေးကောင်စီက နိုင်ငံတော် အာဏာကိုရယူသည်။

၃-၁-၁၉၇၄ ... ဖွဲ့စည်းပုံအခြေခံဥပဒေကို ဆန္ဒမဲပေးပိုင်ခွင့်ရှိသူများ၏ ၉၀ဒသမ၁၉ရာခိုင်နှုန်းဖြင့် အတည်ပြုပြဋ္ဌာန်းသည်။

၁၉၇၄ - ၁၉၈၈ ... မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ၏ ဦးဆောင်မှုဖြင့်ခေတ်ပြောင်းတော်လှန်ရေး ဆင်နွှဲသည်။ ပြည်သူ့လွှတ်တော်နှင့် ပြည်သူ့ကောင်စီ အဆင့်ဆင့်ကိုဖွဲ့စည်းကာ ပြည်သူ့ကိုယ်စားလှယ်များကနိုင်ငံတော်၏ ဥပဒေပြုရေး၊ အုပ်ချုပ်ရေး၊ တရားစီရင်ရေးတာဝန်များကို ဆောင်ရွက်သည်။

၁၈-၉-၁၉၈၈ ... အထွေထွေမကျေနပ်မှုများကြောင့် ဆန္ဒပြမှုများဖြစ်ပွားသည်။ ပြည်တွင်းပြည်ပ အဖျက်အမှောင့်ပယောဂများ စွက်ဖက်မှုကြောင့် မင်းမဲ့စရိုက်များလွှမ်းမိုးကာ တိုင်းဆူပြည်ဖျက်လုပ်ရပ်များ ကြီးစိုးလာသည်။ တရားဥပဒေစိုးမိုးမှုနှင့် ရပ်ရွာအေးချမ်းသာယာမှုပျက်သုဉ်းကာ ပြည်သူများ ကျီးလန့်စာစားအခြေအနေသို့ ဆိုက်ရောက်ခဲ့သဖြင့် တပ်မတော်က နိုင်ငံ့တာဝန်ကိုရယူပြီး နိုင်ငံတော်ကိုကာကွယ်စောင့်ရှောက်ခဲ့ရသည်။

၂၇-၅-၁၉၉၀ ... ပါတီစုံဒီမိုကရေစီရွေးကောက်ပွဲ ကျင်းပသည်။

၉-၁-၁၉၉၃ ... အမျိုးသားညီလာခံ စတင်ကျင်းပသည်။

၃၀-၅-၁၉၉၆ ... အမျိုးသားညီလာခံကို ယာယီအားဖြင့် ဆိုင်းငံ့သည်။

၁၅-၁၁-၁၉၉၇ ... နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီကို ဖွဲ့စည်း၍ နိုင်ငံရေး၊ စီးပွားရေး၊ လူမှုရေး ဦးတည်ချက် (၁၂)ရပ် ချမှတ်ကာ အေးချမ်းသာယာပြီး ခေတ်မီဖွံ့ဖြိုးတိုးတက်သော နိုင်ငံတော်ကို ဆက်လက်တည်ဆောက်သည်။

၃၀-၈-၂၀၀၃ ... နိုင်ငံတော်ရှေ့ဆက်သွားမည့် မူဝါဒလမ်းစဉ်(၇)ရပ်ကို ကြေညာသည်။

၁၇-၅-၂၀၀၄ ... ၁၉၉၆ ခုနှစ်၌ ယာယီအားဖြင့်ဆိုင်းငံ့ထားခဲ့သော အမျိုးသားညီလာခံကို ပြန်လည် ကျင်းပသည်။

၃-၉-၂၀၀၇ ... အမျိုးသားညီလာခံ အောင်မြင်စွာ ကျင်းပပြီးစီးခဲ့သည်။

၁၀-၅-၂၀၀၈ ... ဖွဲ့စည်းပုံအခြေခံဥပဒေမူကြမ်းကို ပြည်လုံးကျွတ်ဆန္ဒခံယူပွဲ ကျင်းပသည်။

၂၉-၅-၂၀၀၈ ... နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီက ကြေညာချက်အမှတ် (၇/၂၀၀၈) ဖြင့် ဖွဲ့စည်းပုံအခြေခံဥပဒေကို အတည်ပြုပြဋ္ဌာန်းလိုက်ကြောင်း ကြေညာသည်။

၁၁-၃-၂၀၁၀ ... နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီက ကြေညာချက်အမှတ် (၁/၂၀၁၀)ဖြင့် ပြည်ထောင်စု ရွေးကောက်ပွဲကော်မရှင်ကို ဖွဲ့စည်းခဲ့သည်။

၇-၁၁-၂၀၁၀ ... ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် ၃၃၀ ရှိသည့်အနက် ၃၂၅ နယ်တွင်လည်းကောင်း၊ အမျိုးသားလွှတ်တော်မဲဆန္ဒနယ် ၃၃၀ ရှိသည့်အနက် ၁၆၈ နယ်တွင်လည်းကောင်း၊ တိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ်လွှတ်တော်မဲဆန္ဒနယ် (တိုင်းရင်းသားလူမျိုးမဲဆန္ဒနယ် ၂၉ ခုအပါအဝင်) ၆၇၃ နယ်ရှိသည့်အနက် ၆၆၁ နယ်တွင်လည်းကောင်း၊ ပါတီစုံဒီမိုကရေစီ ရွေးကောက်ပွဲများကို ကျင်းပခဲ့သည်။



၇-၁၂-၂၀၁၀ ... ဆန္ဒမဲပေးပိုင်ခွင့်ရှိသူ ဦးရေ ၂၉ သန်းကျော် (၂၉၀၂၁၆၀၈)ဦးရှိပြီး ပြည်သူ့လွှတ်တော်အတွက် ဆန္ဒမဲပေးသူဦးရေမှာ ၂၂ သန်းကျော် (၂၂၄၂၁၁၂၃) ဦးရှိကာ ဆန္ဒမဲပေးမှုရာခိုင်နှုန်းမှာ ၇၇ဒသမ၂၆ ရာခိုင်နှုန်း၊ အမျိုးသားလွှတ်တော်အတွက် ဆန္ဒမဲပေးသူဦးရေမှာ ၂၂သန်းကျော်(၂၂၂၈၃၄၆၅)ဦးရှိကာ ဆန္ဒမဲပေးမှုရာခိုင်နှုန်းမှာ ၇၆ဒသမ၇၈ ရာခိုင်နှုန်း၊ တိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ်လွှတ်တော် (တိုင်းရင်းသားလူမျိုးအပါအဝင်) အတွက် ဆန္ဒမဲပေးပိုင်ခွင့်ရှိသူ ဦးရေ ၂၈သန်းကျော် (၂၈၅၃၄၂၁၆)ဦးရှိပြီး ဆန္ဒမဲပေးသူဦးရေမှာ ၂၁သန်းကျော်(၂၁၈၆၃၁၂၃)ဦးရှိကာ ဆန္ဒမဲပေးမှုရာခိုင်နှုန်းမှာ ၇၆ဒသမ၆၂ ရာခိုင်နှုန်းရှိကြောင်း ပြည်ထောင်စုရွေးကောက်ပွဲကော်မရှင်က ထုတ်ပြန်ကြေညာခဲ့သည်။

၃၁-၁-၂၀၁၁ ... နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီသည် ပထမအကြိမ် ပြည်သူ့လွှတ်တော်အစည်းအဝေး၊ ပထမအကြိမ် အမျိုးသားလွှတ်တော်အစည်းအဝေး၊ ပထမအကြိမ် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်အစည်းအဝေးကို နေပြည်တော်၌ ကျင်းပခဲ့သည်။

၃၀-၃-၂၀၁၁ ... ပထမအကြိမ် ပြည်သူ့လွှတ်တော် အစည်းအဝေး၊ ပထမအကြိမ် အမျိုးသားလွှတ်တော်အစည်းအဝေး၊ ပထမအကြိမ် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်အစည်းအဝေးကို နေပြည်တော်၌ အောင်မြင်စွာ ကျင်းပပြီးစီးခဲ့သည်။

၃၀-၃-၂၀၁၁ ... နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီက ကြေညာချက်အမှတ် (၅/၂၀၁၁)ဖြင့် နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီကို ဖျက်သိမ်းခဲ့သည်။

## ပထမမြန်မာနိုင်ငံတော်

၁။ အချိန်ကာလ - အေဒီ ၁၀၄၄ မှ ၁၀၇၇ အထိ
၂။ တည်ထောင်သူ - အနော်ရထာမင်း

## ဒုတိယမြန်မာနိုင်ငံတော်

၁။ အချိန်ကာလ - အေဒီ ၁၅၅၁ မှ ၁၅၈၁ အထိ
၂။ တည်ထောင်သူ - ဘုရင့်နောင်မင်း

## တတိယမြန်မာနိုင်ငံတော်

၁။ အချိန်ကာလ - အေဒီ ၁၇၅၂ မှ ၁၇၆၀ အထိ
၂။ တည်ထောင်သူ - အလောင်းမင်းတရား

## အင်္ဂလိပ် - မြန်မာ ပထမစစ်ပွဲ

၁။ ဘကြီးတော်မင်းတရားလက်ထက်
၂။ ၅-၃-၁၈၂၄ ရက်နေ့တွင် ဖြစ်ပွားသည်။
၃။ ရခိုင်နှင့်တနင်္သာရီနယ်မြေများဆုံးရှုံး



## အင်္ဂလိပ် - မြန်မာ ဒုတိယစစ်ပွဲ

၁။ ပုဂံမင်းလက်ထက်
၂။ ၅-၄-၁၈၅၂ ရက်နေ့တွင် ဖြစ်ပွားသည်။
၃။ အောက်မြန်မာနိုင်ငံတစ်ခုလုံး အပါအဝင် အထက်မြန်မာနိုင်ငံ မြေထဲမြို့အထိဆုံးရှုံး

## အင်္ဂလိပ် - မြန်မာ တတိယစစ်ပွဲ

၁။ သီပေါမင်းလက်ထက်
၂။ ၁၁-၁၁-၁၈၈၅ ရက်နေ့တွင် ဖြစ်ပွားသည်။
၃။ မြန်မာတစ်နိုင်ငံလုံး အင်္ဂလိပ်လက်အောက်ရောက်ရှိ

## ရှေးခေတ် မြို့ပြနိုင်ငံများ

၁။ တကောင်းမြို့ပြနိုင်ငံ
၂။ ဗိဿနိုးမြို့ပြနိုင်ငံ
၃။ ဟန်လင်းမြို့ပြနိုင်ငံ
၄။ သရေခေတ္တရာမြို့ပြနိုင်ငံ
၅။ ဝေသာလီမြို့ပြနိုင်ငံ
၆။ သုဝဏ္ဏဘုမ္မိမြို့ပြနိုင်ငံ

## ရှေးခေတ်မြန်မာမင်းဆက်များ

| | | | | |
|---|---|---|---|---|
| ၁။ | ပထမတကောင်းမင်းဆက် | = | ၃၃ | ဆက် |
| ၂။ | ဒုတိယတကောင်းမင်းဆက် | = | ၁၇ | ဆက် |
| ၃။ | သရေခေတ္တရာမင်းဆက် | = | ၂၇ | ဆက် |
| ၄။ | ပုဂံမင်းဆက် | = | ၅၈ | ဆက် |
| ၅။ | ပင်းယမင်းဆက် | = | ၆ | ဆက် |
| ၆။ | စစ်ကိုင်းမင်းဆက် | = | ၇ | ဆက် |
| ၇။ | အင်းဝမင်းဆက် | = | ၁၇ | ဆက် |
| ၈။ | တောင်ငူမင်းဆက် | = | ၄ | ဆက် |

| | | | |
|---|---|---|---|
| ၉။ | ဟံသာဝတီမင်းဆက် | = | ၁၁ ဆက် |
| ၁၀။ | ညောင်ရမ်းမင်းဆက် | = | ၁၁ ဆက် |
| ၁၁။ | ကုန်းဘောင်မင်းဆက် | = | ၁၁ ဆက် |

## အာဇာနည်ခေါင်းဆောင်ကြီးများ

၁။ ဗိုလ်ချုပ်အောင်ဆန်း
၂။ သခင်မြ
၃။ ဒီးဒုတ်ဦးဘချို
၄။ ဦးရာဇတ်
၅။ ဦးဘဝင်း
၆။ မန်းဘခိုင်
၇။ မိုင်းပွန်စော်ဘွားကြီး စဝ်စံထွန်း
၈။ ဦးအုန်းမောင်(အတွင်းဝန်)
၉။ ရဲဘော်ကိုထွေး (သက်တော်စောင့်)

## မြန်မာ့လွတ်လပ်ရေးကာလတစ်လျှောက် ချုပ်ဆိုခဲ့သော စာချုပ်များ

**ကန္ဒီစာချုပ်**

၁၉၄၅ခုနှစ် စက်တင်ဘာလ ၇ ရက်တွင် သီရိလင်္ကာနိုင်ငံ ကန္ဒီမြို့၌ ဗိုလ်ချုပ်အောင်ဆန်းနှင့် လော့ဝူဝီမောင့်ဘက်တန်တို့ ချုပ်ဆိုခဲ့ကြသည့် စာချုပ်ဖြစ်သည်။

**အောင်ဆန်း-အက်တလီစာချုပ်**

၁၉၄၇ခုနှစ် ဇန်နဝါရီလ ၂၇ ရက်တွင် အင်္ဂလန်နိုင်ငံ လန်ဒန်မြို့ အမှတ် (၁၀) ဒေါင်းနင်းလမ်းရှိ ဗြိတိသျှဝန်ကြီးချုပ် အိမ်တော်၌ ဗြိတိသျှဝန်ကြီးချုပ် မစ္စတာအက်တလီနှင့် ဗိုလ်ချုပ်အောင်ဆန်းတို့ လက်မှတ်ရေးထိုး ချုပ်ဆိုခဲ့သော စာချုပ်ဖြစ်သည်။

**ပင်လုံစာချုပ်**

၁၉၄၇ခုနှစ် ဖေဖော်ဝါရီလ ၁၂ ရက်တွင် ရှမ်းပြည်နယ်တောင်ပိုင်း ပင်လုံမြို့၌ တိုင်းရင်းသားကိုယ်စားလှယ်များနှင့် ဗိုလ်ချုပ်အောင်ဆန်းတို့ တိုင်းရင်းသားလူမျိုးများအားလုံး သွေးစည်းညီညွတ်ခြင်း အထိမ်းအမှတ်အဖြစ် ချုပ်ဆိုခဲ့သော စာချုပ်ဖြစ်သည်။

**လက်ျာ-ဖရီးမင်းစာချုပ်**

၁၉၄၇ခုနှစ် သြဂုတ်လ ၂၇ ရက်တွင် တပ်မတော် အနာဂတ်ရေးအတွက် ဗမာ့တပ်မတော် ကာကွယ်ရေးဝန်ကြီး ဗိုလ်လက်ျာနှင့် ဗြိတိသျှတို့ဘက်မှ မစ္စတာဖရီးမင်းတို့ ချုပ်ဆိုခဲ့သော စာချုပ်ဖြစ်သည်။



**နု-အက်တလီစာချုပ်**

၁၉၄၇ ခုနှစ် အောက်တိုဘာလ ၁၇ ရက်တွင် အင်္ဂလန်နိုင်ငံ လန်ဒန်မြို့၌ ဗြိတိသျှဝန်ကြီးချုပ် မစ္စတာအက်တလီနှင့် ဝန်ကြီးချုပ် ဦးနုတို့ လက်မှတ်ရေးထိုး ချုပ်ဆိုခဲ့သော စာချုပ်ဖြစ်သည်။

## ပင်လုံစာချုပ် ချုပ်ဆိုရာတွင် ပါဝင်ကြသူများ

| | | |
|---|---|---|
| ၁။ ဗိုလ်ချုပ်အောင်ဆန်း | - | မြန်မာအစိုးရကိုယ်စားလှယ် |
| ၂။ စဝ်ခွန်ပန်းစိန် | - | တောင်ပိုင်းစော်ဘွား |
| ၃။ စဝ်ရွှေသိုက် | - | ညောင်ရွှေစော်ဘွား |
| ၄။ စဝ်ဟုံဖ | - | မြောက်ပိုင်းသိန္နီစော်ဘွား |
| ၅။ စဝ်နွံ | - | လဲချားစော်ဘွား |
| ၆။ စဝ်စံထွန်း | - | မိုင်းပွန်စော်ဘွား |
| ၇။ စဝ်ထွန်းအေး | - | သာမိုင်းခမ်းစော်ဘွား |
| ၈။ ဦးခွန်ဖုန်း | - | လူထုကိုယ်စားလှယ် (မြောက်ပိုင်း) |
| ၉။ ဦးတင်ဧ | - | လူထုကိုယ်စားလှယ် (တောင်ကြီး) |
| ၁၀။ ဦးကြာပု | - | လူထုကိုယ်စားလှယ် (သီပေါ) |
| ၁၁။ စဝ်ယိပ်ဖ | - | လူထုကိုယ်စားလှယ် (သီပေါ) |
| ၁၂။ ဦးခွန်ထီး | - | လူထုကိုယ်စားလှယ် (ပင်လုံ) |
| ၁၃။ ဦးထွန်းမြင့် | - | လူထုကိုယ်စားလှယ် (မောက်မယ်) |
| ၁၄။ ဦးခွန်စော | - | လူထုကိုယ်စားလှယ် (ပင်းတယ) |
| ၁၅။ ဦးဖြူ | - | ဆီဆိုင်စော်ဘွားကိုယ်စားလှယ် |
| ၁၆။ ဆမား ဒူးဝါးဆင်ဝါးနောင် | - | ကချင်ကိုယ်စားလှယ် (မြစ်ကြီးနား) |
| ၁၇။ ဒူးဝါးဇော်ရစ် | - | ကချင်ကိုယ်စားလှယ် (မြစ်ကြီးနား) |
| ၁၈။ ဦးဒိန်ရတန် | - | ကချင်ကိုယ်စားလှယ် (မြစ်ကြီးနား) |
| ၁၉။ ဒူးဝါးဇော်ထွန်း | - | ကချင်ကိုယ်စားလှယ် (ဗန်းမော်) |
| ၂၀။ ဦးလဘန်ဂရောင် | - | ကချင်ကိုယ်စားလှယ် (ဗန်းမော်) |
| ၂၁။ ဦးလွှာမှုန်း | - | ချင်းကိုယ်စားလှယ် (ဖလမ်း) |
| ၂၂။ ဦးသောင်ဇာခုပ် | - | ချင်းကိုယ်စားလှယ် (တီးတိန်) |
| ၂၃။ ဦးကွယ်မန်း | - | ချင်းကိုယ်စားလှယ် (ဟားခါး) |

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် သမ္မတအဖြစ် တာဝန်ထမ်းဆောင်ခဲ့သည့် ပုဂ္ဂိုလ်များ

| စဉ် | အမည် | မွေး-ဆုံး | ကာလ | ကိုယ်စားပြုနိုင်ငံရေးပါတီ |
|---|---|---|---|---|
| ၁။ | စပ်ရွှေသိုက် | ၁၈၉၆-၁၉၆၂ | ၄-၁-၁၉၄၈ မှ ၁၆-၃-၁၉၅၂ ထိ | ဖက်ဆစ်ဆန့်ကျင်ရေး ပြည်သူ့လွတ်လပ်ရေးအဖွဲ့ချုပ် |
| ၂။ | ဒေါက်တာဘဦး | ၁၈၈၇-၁၉၆၃ | ၁၆-၃-၁၉၅၂ မှ ၁၃-၃-၁၉၅၇ ထိ | ဖက်ဆစ်ဆန့်ကျင်ရေး ပြည်သူ့လွတ်လပ်ရေးအဖွဲ့ချုပ် |
| ၃။ | မန်းဝင်းမောင် | ၁၉၁၆-၁၉၈၉ | ၁၃-၃-၁၉၅၇ မှ ၂-၃-၁၉၆၂ ထိ | ဖက်ဆစ်ဆန့်ကျင်ရေး ပြည်သူ့လွတ်လပ်ရေးအဖွဲ့ချုပ် |
| ၄။ | ဦးနေဝင်း | ၁၉၁၀-၂၀၀၂ | ၂-၃-၁၉၆၂ မှ ၂-၃-၁၉၇၄ ထိ | တပ်မတော် |
| ၅။ | ဦးနေဝင်း | ၁၉၁၀-၂၀၀၂ | ၂-၃-၁၉၆၂ မှ ၉-၁၁-၁၉၈၁ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |
| ၆။ | ဦးစန်းယု | ၁၉၁၈-၁၉၉၆ | ၉-၁၁-၁၉၈၁ မှ ၂၅-၇-၁၉၈၈ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |



| စဉ် | အမည် | မွေး-ဆုံး | ကာလ | ကိုယ်စားပြုနိုင်ငံရေးပါတီ |
|---|---|---|---|---|
| ၇။ | ဦးစိန်လွင် | ၁၉၂၄-၂၀၀၄ | ၂၅-၇-၁၉၈၈ မှ ၁၂-၈-၁၉၈၈ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |
| ၈။ | ဦးအေးကို(ယာယီသမ္မတ) | ၁၉၂၀-၂၀၀၆ | ၁၂-၈-၁၉၈၈ မှ ၁၉-၈-၁၉၈၈ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |
| ၉။ | ဒေါက်တာမောင်မောင် | ၁၉၂၅-၁၉၉၄ | ၁၉-၈-၁၉၈၈မှ ၁၈-၉-၁၉၈၈ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |
| ၁၀။ | ဗိုလ်ချုပ်မှူးကြီးစောမောင် | ၁၉၂၈-၁၉၉၇ | ၁၈-၉-၁၉၈၈ မှ ၂၃-၄-၁၉၉၂ ထိ | တပ်မတော်<br>(နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှု တည်ဆောက်ရေးအဖွဲ့) |
| ၁၁။ | ဗိုလ်ချုပ်မှူးကြီးသန်းရွှေ | ၁၉၃၃- | ၂၃-၄-၁၉၉၂ မှ ၁၅-၁၁-၁၉၉၇ ထိ | တပ်မတော်<br>(နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှု တည်ဆောက်ရေးအဖွဲ့) |
| ၁၂။ | ဗိုလ်ချုပ်မှူးကြီးသန်းရွှေ | ၁၉၃၃- | ၁၅-၁၁-၁၉၉၇ မှ ၁၉-၃-၂၀၁၁ | တပ်မတော်<br>(နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ) |

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ဝန်ကြီးချုပ်အဖြစ် တာဝန်ထမ်းဆောင်ခဲ့သည့် ပုဂ္ဂိုလ်များ

| စဉ် | အမည် | မွေး-ဆုံး | ကာလ | ကိုယ်စားပြုနိုင်ငံရေးပါတီ |
|---|---|---|---|---|
| ၁။ | ဦးနု(ပထမအကြိမ်) | ၁၉၀၇-၁၉၉၅ | ၄-၁-၁၉၄၈ မှ ၁၂-၆-၁၉၅၆ ထိ | ဖက်ဆစ်ဆန့်ကျင်ရေး ပြည်သူ့လွတ်လပ်ရေးအဖွဲ့ချုပ် |
| ၂။ | ဦးဗဆွေ | ၁၉၁၅-၁၉၈၇ | ၁၂-၆-၁၉၅၆ မှ ၁-၃-၁၉၅၇ ထိ | ဖက်ဆစ်ဆန့်ကျင်ရေး ပြည်သူ့လွတ်လပ်ရေးအဖွဲ့ချုပ် |
| ၃။ | ဦးနု(ဒုတိယအကြိမ်) | ၁၉၀၇-၁၉၉၅ | ၁-၃-၁၉၅၇ မှ ၂၉-၁၀-၁၉၅၈ ထိ | ဖက်ဆစ်ဆန့်ကျင်ရေး ပြည်သူ့လွတ်လပ်ရေးအဖွဲ့ချုပ် |
| ၄။ | ဦးနေဝင်း(ပထမအကြိမ်) | ၁၉၁၀-၂၀၀၂ | ၂၉-၁၀-၁၉၅၈ မှ ၄-၄-၁၉၆၀ ထိ | တပ်မတော် |
| ၅။ | ဦးနု(တတိယအကြိမ်) | ၁၉၀၇-၁၉၉၅ | ၄-၄-၁၉၆၀ မှ ၂-၃-၁၉၆၂ ထိ | ဖက်ဆစ်ဆန့်ကျင်ရေး ပြည်သူ့လွတ်လပ်ရေးအဖွဲ့ချုပ် |
| ၆။ | ဦးနေဝင်း(ဒုတိယအကြိမ်) | ၁၉၁၀-၂၀၀၂ | ၂-၃-၁၉၆၂ မှ ၄-၃-၁၉၇၄ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |
| ၇။ | ဦးစိန်ဝင်း | ၁၉၁၉-၁၉၉၃ | ၄-၃-၁၉၇၄ မှ ၂၉-၃-၁၉၇၇ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |



| စဉ် | အမည် | မွေး-ဆုံး | ကာလ | ကိုယ်စားပြုနိုင်ငံရေးပါတီ |
|---|---|---|---|---|
| ၈။ | ဦးမောင်မောင်ခ | ၁၉၂၀-၁၉၉၅ | ၂၉-၃-၁၉၇၇ မှ ၂၆-၇-၁၉၈၈ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |
| ၉။ | ဦးထွန်းတင် | ၁၉၃၀- | ၂၆-၇-၁၉၈၈ မှ ၁၈-၉-၁၉၈၈ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |
| ၁၀။ | ဗိုလ်ချုပ်မှူးကြီးစောမောင် | ၁၉၂၈-၁၉၉၇ | ၂၁-၉-၁၉၈၈မှ ၂၃-၄-၁၉၉၂ ထိ | တပ်မတော် (နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှု တည်ဆောက်ရေးအဖွဲ့) |
| ၁၁။ | ဗိုလ်ချုပ်မှူးကြီးသန်းရွှေ | ၁၉၃၃- | ၂၃-၄-၁၉၉၂ မှ ၂၅-၈-၂၀၀၃ ထိ | တပ်မတော် (နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှု တည်ဆောက်ရေးအဖွဲ့) |
| ၁၂။ | ဗိုလ်ချုပ်ကြီးခင်ညွန့် | ၁၉၃၉- | ၂၅-၈-၂၀၀၃ မှ ၁၈-၁၀-၂၀၀၄ ထိ | တပ်မတော် (နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှု တည်ဆောက်ရေးအဖွဲ့) |
| ၁၃။ | ဗိုလ်ချုပ်ကြီးစိုးဝင်း | ၁၉၄၉-၂၀၀၇ | ၁၉-၁၀-၂၀၀၄ မှ ၁၂-၁၀-၂၀၀၇ ထိ | တပ်မတော် (နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ) |
| ၁၄။ | ဗိုလ်ချုပ်ကြီး သိန်းစိန် | ၁၉၄၅- | ၁၂-၁၀-၂၀၀၇ ၂၉-၃-၂၀၁၁ | တပ်မတော် (နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ) |

## မြန်မာနိုင်ငံ၏ ပထဝီဆိုင်ရာ အချက်အလက်များ

**မြန်မာနိုင်ငံ၏တည်နေရာ**

အာရှတိုက်အရှေ့တောင်ပိုင်းတွင် တည်ရှိပြီး မြောက်လတ္တီတွဒ် ၉ ဒီဂရီ ၃၂ မိနစ်မှ ၂၈ ဒီဂရီ ၃၁ မိနစ်အထိ၊ အရှေ့လောင်ဂျီတွဒ် ၉၂ ဒီဂရီ ၁၀ မိနစ်မှ ၁၀၁ ဒီဂရီ ၁၁ မိနစ်အတွင်း တည်ရှိသည်။

**အကျယ်အဝန်း**

စတုရန်းမိုင်ပေါင်း ၂၆၁၂၂၈ မိုင် ကျယ်ဝန်းသည်။

**မြို့တော်**

နေပြည်တော်

**အိမ်နီးချင်းနိုင်ငံများ**

တရုတ်၊ လာအို၊ ထိုင်း၊ ဘင်္ဂလားဒေ့ရှ်နှင့် အိန္ဒိယနိုင်ငံတို့အကြားတွင် တည်ရှိသည်။

**အမြင့်ဆုံးတောင်ထွတ်**

ခါကာဘိုရာဇီ၊ ပေပေါင်း ၁၉၂၉၆ မြင့်ပြီး ကချင်ပြည်နယ်၊ နောင်မွန်းမြို့ မြောက်ဘက်တွင် တည်ရှိသည်။

**တောင်တန်းများ**

(က) ရခိုင်ရိုးမ
(ခ) တနင်္သာရီရိုးမ
(ဂ) ပဲခူးရိုးမ

**တောင်ကုန်းဒေသများ**

(က) အရှေ့ဘက်ကုန်းမြင့်ဒေသ
(ခ) အနောက်ဘက်တောင်တန်းကြီးများဒေသ
(ဂ) အလယ်ပိုင်းမြေနိမ့်မြစ်ဝှမ်းလွင်ပြင်ဒေသ
(ဃ) ရခိုင်ကမ်းရိုးတန်းမြေနိမ့်လွင်ပြင်ဒေသ



**ကမ်းရိုးတန်း**

ကမ်းရိုးတန်းအရှည် = ၁၃၈၅ မိုင်

**မြန်မာ့ရေပိုင်နက်**

(က) ပိုင်နက်နယ်မြေ = ၁၂ မိုင် (ရေမိုင်)
(ခ) ဆက်စပ်ဇုန် = ၂၄ မိုင် (ရေမိုင်)
(ဂ) သီးသန့်စီးပွားရေးဇုန် = ၂၀၀ မိုင် (ရေမိုင်)

**ထင်ရှားသောမြစ်ကြီးများ**

(က) ဧရာဝတီမြစ် (၁၂၅၀ မိုင်)၊
(ခ) ချင်းတွင်းမြစ် (၇၁၇ မိုင်)၊
(ဂ) စစ်တောင်းမြစ် (၂၆၂ မိုင်)
(ဃ) သံလွင်မြစ် (၇၉၅ မိုင်)

**ဧရာဝတီမြစ်၏ မြစ်ခွဲများ(အဆိုပါမြစ်ခွဲများနှင့် ပင်လယ်အတွင်းသို့စီးဝင်)**

(က) ဝဏ်မြစ်(ခေါ်)ပုသိမ်မြစ်
(ခ) ရွှေးမြစ်
(ဂ) ဖျာပုံမြစ်
(ဃ) သက်ကယ်သောင်မြစ်
(င) ပြန်မလော့မြစ်
(စ) ဘိုကလေးမြစ်
(ဆ) တိုးမြစ်
(ဇ) သံဒိမြစ်
(ဈ) ပြင်စလူမြစ်

**ချင်းတွင်းမြစ်၏ မြစ်လက်တက်များ**

(က) မြစ်သာမြစ်
(ခ) ယူးမြစ်
(ဂ) ဥရုမြစ်

**စစ်တောင်းမြစ်၏ မြစ်လက်တက်များ**

(က) ခပေါင်းချောင်း
(ခ) ရွှေကျင်မြစ်

(ဂ) ရဲနွယ်ချောင်း
(ဃ) ငလိုက်ချောင်း
(င) ဆင်သေချောင်း
(စ) ရေဆင်းချောင်း
(ဆ) ပေါင်းလောင်းမြစ်
(ဇ) ဆွာချောင်း
(ဈ) ဖြူးချောင်း
(ည) ကွန်ချောင်း
(ဋ) ကနိချောင်း
(ဌ) ပသိချောင်း
(ဍ) ပြုံးချောင်း
(ဎ) ကျောက်ကြီးချောင်း
(ဏ) ကျွန်းပခုချောင်း

**သံလွင်မြစ်၏ မြစ်လက်တက်များ**
(က) သောင်ရင်းမြစ်
(ခ) ဟောင်သရောမြစ်
(ဂ) အတ္တရံမြစ်

**တောင်ဘက်မှမြောက်ဘက်သို့စီးဆင်းသောမြစ်များ**
(က) သောင်ရင်းမြစ်
(ခ) ဂျိုင်းမြစ်
(ဂ) အတ္တရံမြစ်
(ဃ) မြစ်သာမြစ်
(င) ဇော်ဂျီမြစ်
(စ) တနင်္သာရီမြစ်လေး

**အရှေ့၊ အနောက်၊ တောင်၊ မြောက်တွင်ရှိသော မြစ်များ**
(က) အရှေ့ဘက်အကျဆုံးမြစ် = မဲခေါင်မြစ်
(ခ) အနောက်ဘက်အကျဆုံးမြစ် = နတ်မြစ်
(ဂ) တောင်ဘက်အကျဆုံးမြစ် = ပါချန်မြစ်
(ဃ) မြောက်ဘက်အကျဆုံးမြစ် = မေခနှင့်မလိခမြစ်



**ထင်ရှားသောအိုင်ကြီးများ**
(က) အင်းတော်ကြီးအိုင်(ကချင်ပြည်နယ်) = အကြီးဆုံးအိုင်
(ခ) အင်းလေးအိုင်(ရှမ်းပြည်နယ်) = ဒုတိယအကြီးဆုံးအိုင်

**တူးမြောင်းများ**
(က) ပဲခူး-စစ်တောင်းတူးမြောင်း (၃၈မိုင်)
(ခ) တွံတေးတူးမြောင်း (၂၂မိုင်)

**အစွန်ဆုံးမြို့များ**
(က) မြောက်ဘက်အကျဆုံးမြို့ = ပန်နန်းဒင်
(ခ) တောင်ဘက်အကျဆုံးမြို့ = ကော့သောင်း
(ဂ) အရှေ့ဘက်အကျဆုံးမြို့ = မိုင်းယောင်း
(ဃ) အနောက်ဘက်အကျဆုံးမြို့ = မောင်တော

**အိမ်နီးချင်းနိုင်ငံများနှင့် နယ်နိမိတ်ထိစပ်မှုအကွာအဝေး**
(က) တရုတ်နိုင်ငံ ၂၂၂၆. ၈၅ ကီလိုမီတာ (၁၃၈၄) မိုင်
(ခ) လာအိုနိုင်ငံ ၂၃၄. ၉၁ ကီလိုမီတာ (၁၃၉) မိုင်
(ဂ) ထိုင်းနိုင်ငံ ၂၀၉၈. ၁၄ ကီလိုမီတာ (၁၃၀၄) မိုင်
(ဃ) ဘင်္ဂလားဒေ့ရှ် ၂၇၁. ၉၂ ကီလိုမီတာ (၁၆၉) မိုင်
(င) အိန္ဒိယနိုင်ငံ ၁၄၅၂. ၉၃ ကီလိုမီတာ (၉၀၃) မိုင်

**အကျယ်ဝန်းဆုံးတိုင်းဒေသကြီး၊ ပြည်နယ်**
(က) အကျယ်ဝန်းဆုံးတိုင်းဒေသကြီး = စစ်ကိုင်းတိုင်းဒေသကြီး
(ခ) အကျယ်ဝန်းဆုံးပြည်နယ် = ရှမ်းပြည်နယ်

**အကျဉ်းဆုံးတိုင်းဒေသကြီး၊ ပြည်နယ်**
(က) အကျဉ်းဆုံးတိုင်းဒေသကြီး = ရန်ကုန်တိုင်းဒေသကြီး
(ခ) အကျဉ်းဆုံးပြည်နယ် = ကယားပြည်နယ်

**လူဦးရေအများဆုံးတိုင်းဒေသကြီး၊ ပြည်နယ်**
(က) လူဦးရေအများဆုံးတိုင်းဒေသကြီး = ဧရာဝတီတိုင်းဒေသကြီး
(ခ) လူဦးရေအများဆုံးပြည်နယ် = ရှမ်းပြည်နယ်

**လူဦးရေအနည်းဆုံးတိုင်းဒေသကြီး၊ ပြည်နယ်**
(က) လူဦးရေအနည်းဆုံးတိုင်းဒေသကြီး=တနင်္သာရီတိုင်းဒေသကြီး
(ခ) လူဦးရေအနည်းဆုံးပြည်နယ် = ကယားပြည်နယ်

## ဧရာဝတီမြစ်ဆုံစီမံကိန်းဆိုင်ရာ အချက်အလက်များ

၁။ ဧရာဝတီမြစ်ဆုံ၊ မေခ၊ မေလိခ မြစ်ညာမြစ်ဝှမ်း ရေအားလျှပ်စစ် စီမံကိန်းများဆိုင်ရာ နားလည်မှုစာချွန်လွှာ(MoU)ကို ၂၀၀၆ ခုနှစ်၊ ဒီဇင်ဘာ ၂၈ ရက်က အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာနနှင့် တရုတ်နိုင်ငံ China Power Investment Coporation (CPI)တို့ ချုပ်ဆိုခဲ့သည်။

၂။ ၂၀၁၁ ခုနှစ်၊ စက်တင်ဘာ ၃၀ ရက်နေ့တွင် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် နိုင်ငံတော်သမ္မတ ဦးသိန်းစိန်က မိမိတို့အစိုးရသည် ပြည်သူမှ ရွေးချယ်တင်မြှောက်ထားသည့်အစိုးရဖြစ်၍ ပြည်သူများ၏ဆန္ဒကို အလေးထားရပါမည်။ ပြည်သူများ၏ စိုးရိမ်ပူပန်မှုများကို အလေးထား၍ ဖြေရှင်းဆောင်ရွက်ပေးရန် တာဝန်ရှိပါသည်။ သို့ပါ၍ မိမိတို့အစိုးရလက်ထက်တွင် မြစ်ဆုံဆည်တည်ဆောက်ခြင်းကို မပြုလုပ်စေဘဲ ရပ်ဆိုင်းထားမည်ဖြစ်ကြောင်း ပထမအကြိမ် ပြည်သူ့လွှတ်တော် ဒုတိယပုံမှန်အစည်းအဝေး၊ ပထမအကြိမ် အမျိုးသားလွှတ်တော် ဒုတိယပုံမှန်အစည်းအဝေးတို့သို့ သက်ဆိုင်ရာ လွှတ်တော်ဥက္ကဋ္ဌများထံ သဝဏ်လွှာပေးပို့ခဲ့သည်။

၃။ တရုတ်ပြည်သူ့သမ္မတနိုင်ငံ၏ ငွေကြေးအရင်းအနှီးဖြင့် ဧရာဝတီမြစ်ဆုံ ရေအားလျှပ်စစ်စီမံကိန်းကို ပထမအဆင့်ဆောင်ရွက်ရန် စတင်ခဲ့ရာ မြစ်ဆုံ စီမံကိန်းအတွက် ကုန်ကျစရိတ် အမေရိကန်ဒေါ်လာ သန်း ၃၆၀ အပါအဝင် မေခ၊ မလိခမြစ်ပေါ်ရှိ ရေအားလျှပ်စစ်ဆည် ၇ ခုအတွက် ရင်းနှီးမြှုပ်နှံမှုပမာဏ စုစုပေါင်း အမေရိကန်ဒေါ်လာ သန်း၂၀ ဘီလီယံ သုံးစွဲရမည်။

၄။ ၂၀၀၇ ခုနှစ်၊ ဒီဇင်ဘာလတွင် Changjiang Survey Planning, Design and Research Co.,Ltd (CDC) သည် ဧရာဝတီမြစ်ဆုံ၊ မေခ၊ မလိခမြစ်ညာ မြစ်ဝှမ်း ရေအားလျှပ်စစ်စီမံကိန်းများ ဖွံ့ဖြိုးတိုးတက်မှုဆိုင်ရာ စီမံချက်အစီရင်ခံစာ (Planning Report)ကို အပြီးသတ်ဆောင်ရွက်ခဲ့သည်။ ၂၀၀၈ ခုနှစ်၊ မတ်လတွင် (CDC)သည် မြစ်ကြီးနားအထက်ပိုင်း၊ ဧရာဝတီမြစ် ဖွံ့ဖြိုးတိုးတက်မှုဆိုင်ရာ Term of Reference (TOR) of Environmental Impact Assessment (EIA) Report ကို အပြီးသတ်ဆောင်ရွက်ခဲ့ပြီး ၂၀၀၈ ခုနှစ်၊ ဇွန်လတွင် အတည်ပြုခဲ့သည်။ ၂၀၀၉ ခုနှစ်၊ အောက်တိုဘာလတွင် တရုတ်နိုင်ငံ (CDC) က ဧရာဝတီမြစ်ရှိ မြစ်ဆုံ ဓာတ်အားပေးစက်ရုံ အထက်ပိုင်းဆိုင်ရာဖြစ်မြောက်နိုင်စွမ်း သုတေသနအစီရင်ခံစာ Feasibility Research Report ကို အပြီးသတ်ဆောင်ရွက်ခဲ့သည်။



၅။ ဧရာဝတီမြစ်ဆုံစီမံကိန်းသည် လျှပ်စစ်ဓာတ်အား မဂ္ဂါဝပ် ၁၈၀၀၀ ခန့် ထုတ်လုပ်နိုင်မည်။ နိုင်ငံတော်၏ စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် မရှိမဖြစ် စီမံကိန်းတစ်ရပ်ဖြစ်သည်။ အဆိုပါလျှပ်စစ်ဓာတ်အားပမာဏသည် နျူကလီးယားဓာတ်ပေါင်းဖို ၂၀ ခန့်နှင့် ညီမျှသည်။ နျူကလီးယားဓာတ်ပေါင်းဖိုတစ်ခု၏ ကုန်ကျစရိတ်မှာ အမေရိကန်ဒေါ်လာ ၁ ဘီလီယံခန့်ဖြစ်၍ ဒေါ်လာ ဘီလီယံ ၂၀ ခန့် သုံးစွဲရမည်ဖြစ်သည်။ မြစ်ဆုံရေအားလျှပ်စစ်ဓာတ်အားမှာ ပြန်လည်ပြည့်ဖြိုးမြဲစွမ်းအင်ဖြစ်၍ ဧရာဝတီမြစ်ရေ၏ ခုနစ်ရာခိုင်နှုန်းသာ အသုံးပြုမည်ဖြစ်သည်။ သို့ဖြစ်၍ စနစ်တကျ တွက်ချက်ထားခြင်းဖြစ်၍ မြစ်ကြောင်းတိမ်ကောရန်အတွက် စိုးရိမ်စရာမရှိပါ။ ဧရာဝတီမြစ်ဆုံရေအားလျှပ်စစ်စီမံကိန်း၏ စက်တပ်အင်အားသည် ၆၀၀၀ မဂ္ဂါဝပ် ဖြစ်ပြီး နှစ်စဉ်ပျမ်းမျှထုတ်လုပ်နိုင်သည့် ဓာတ်အားကီလိုဝပ် နာရီ သန်းပေါင်း ၂၉၄၀၀ ဖြစ်သည်။ စီမံကိန်းကာလ ကိုးနှစ်ဖြစ်သည်။

၆။ မြစ်ဆုံစီမံကိန်းအတွက် အလုပ်အကိုင်အခွင့်အလမ်း ၂၆၀၀ ကျော် ဖော်ထုတ် ရရှိခဲ့သည်။ စီမံကိန်းပြီးစီးချိန်တွင် မေခမြစ်၏ အရှေ့ဘက်ကမ်းမှာ မြစ်ဆုံမှ ယိနန် အထိ ၂၆၁ မိုင်ခန့်၊ မလိခမြစ် အနောက်ဘက်ကမ်းမှာ မြစ်ဆုံမှ လိုင်ဇာအထိ မိုင် ၁၇၀ ခန့် လမ်းမကြီးနှစ်လမ်း ပေါ်ပေါက်လာမည်ဖြစ်ပြီး အဆိုပါ လမ်းမကြီးများနှင့် ယှဉ်တွဲပြီး တံတားကြီး ခုနစ်စင်း တည်ဆောက်မည်ဖြစ်သည်။

၇။ ၁၇-၉-၂၀၁၁ ရက်နေ့တွင် အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန "ဧရာဝတီမြစ်ဝှမ်း ရေအားလျှပ်စစ်စီမံကိန်းများကြောင့် ဧရာဝတီမြစ်နှင့် သဘာဝပတ်ဝန်းကျင်အပေါ် သက်ရောက်မှုဆိုင်ရာ အလုပ်ရုံဆွေးနွေးပွဲ(၃/၂၀၁၁)ကို နေပြည်တော်ရှိ အမှတ် (၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၌ ကျင်းပသည်။

၈။ ၂၄-၁၂-၂၀၀၈ ခုနှစ်တွင် မြစ်ကြီးနားအထက် ဧရာဝတီမြစ်ဝှမ်းရေအားလျှပ်စစ်ဖွံ့ဖြိုးမှုစီမံကိန်းပတ်ဝန်းကျင်အပေါ်သက်ရောက်မှုပြုလုပ်လေ့လာရန် သဘောတူစာချုပ်ကို တရုတ်နိုင်ငံ ကွမ်မင်းမြို့တွင် BAMCA နှင့် တရုတ်နိုင်ငံ CPI ကုမ္ပဏီလက်မှတ်ရေးထိုးသည်။

၉။ **ရေအားလျှပ်စစ်စီမံကိန်းများပြီးစီးပြီးနောက်တွင် ဖြစ်ပေါ်လာနိုင်သော ဧရာဝတီမြစ် ရေလမ်းကြောင်းအခြေအနေများ**

- ဧရာဝတီမြစ်ဆုံရေအားလျှပ်စစ်စီမံကိန်းသည် ကချင်ပြည်နယ်မြစ်ကြီးနားမြို့၏ မြောက်ဘက် ၂၅ မိုင်ခန့်အကွာ မေခမြစ်နှင့် မလိခမြစ်တို့ပေါင်းဆုံရာ၏ အောက်ဘက် မိုင် ၄၀ ခန့်အကွာ ဧရာဝတီမြစ်ပေါ်တွင် တည်ရှိသည်။

- မြစ်ဆုံရေအားလျှပ်စစ် စီမံကိန်းဖြစ်မြောက်နိုင်စွမ်းအစီရင်ခံစာအရ Concrete Faced Rockfill Dam (CFRD) အမျိုးအစားရေလှောင်တမံဖြစ်သည်။
- တမံအလျား ၄၃၀၀ ပေ၊ အမြင့် ၄၁၈ ပေ
- ရေလှောင်တမံတည်ရှိရာ မြစ်ကြီးနားမြို့၏ နှစ်စဉ်ပျမ်းမျှမိုးရေချိန်မှာ ၉၁ လက်မဖြစ်သည်။
- ရေဆင်းဧရိယာမှာ ၁၈၂၆၂ စတုရန်းမိုင်ဖြစ်ပြီး နှစ်စဉ်ပျမ်းမျှ စီးဝင်ရေမှာ ၁၂၈ ဒသမ ၅၂ သန်း ဧကပေဖြစ်သည်။
- နှစ်စဉ်ပျမ်းမျှထုတ်လုပ်နိုင်မည့်ဓာတ်အားမှာ ၂၉၄၀၀ သန်း ကီလိုဝပ်နာရီဖြစ်ပါသည်။
- ရေလှောင်တမံတည်ဆောက်ပြီးစီးပါက တပ်ဆင်စက်အင်အားမှာ ၆၀၀၀ မဂ္ဂါဝပ်ဖြစ်သည်။
- ၂၀၁၉ ခုနှစ်တွင် တည်ဆောက်ရေးလုပ်ငန်းများ ပြီးစီးနိုင်မည်ဟု ခန့်မှန်းသည်။

၁၀။ မြစ်ဆုံရေအားလျှပ်စစ်စီမံကိန်းရပ်ဆိုင်းထားခြင်းအတွက် နိုင်ငံတော်သမ္မတ၏ အထူးကိုယ်စားလှယ်အဖြစ် နိုင်ငံခြားရေးဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီး ဦးဝဏ္ဏမောင်လွင်သည် တရုတ်နိုင်ငံခြားရေးဝန်ကြီး Yang Jiechi နှင့် ၁၀-၁၀-၂၀၁၁ ရက်နေ့ ပေကျင်းမြို့၌ တွေ့ဆုံရာတွင် မြစ်ဆုံရေအားလျှပ်စစ်စီမံကိန်းနှင့် ပတ်သက်ပြီး အသေးစိတ်ဆွေးနွေးခဲ့ကြသည်။

၁၁။ မြစ်ဆုံရေအားလျှပ်စစ်စီမံကိန်းကြောင့် စီမံကိန်းဧရိယာနှင့် မလွတ်ကင်းသော တန်ဖဲ၊ ကျိန်ခရမ်၊ မြစ်ဆုံ၊ ခပွါး/အောင်ဂျာယန်၊ ဒေါင်ပန်ရွာ ငါးရွာမှ စုစုပေါင်း အိမ်ထောင်စု ၄၁၀၊ လူဦးရေ ၂၁၄၆ ဦး၏ ပြန်လည်နေရာချထားမှုအစီအမံအား နိုင်ငံတော်အစိုးရ၏ အနီးကပ်လမ်းညွှန်မှု၊ အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာနနှင့် ဒေသခံအာဏာပိုင်အဖွဲ့အစည်းအသီးသီး၏ ဟန်ချက်ညီကြီးကြပ်ကွပ်ကဲမှုဖြင့် ဆောင်ရွက်ခဲ့သည်။

- တန်ဖဲ၊ ကျိန်ခရမ်၊ မြစ်ဆုံရွာ သုံးရွာအား အောင်မြေသာစံပြကျေးရွာသစ်
- ခပွါး/အောင်ဂျာယန်၊ ဒေါင်ပန်ရွာ နှစ်ရွာကို မလိယန်ကျေးရွာသစ်အဖြစ်လည်းကောင်း ယင်းတို့၏ နဂိုရှိရင်းစွဲအဆင့်အတန်းထက် ပိုမိုကောင်းမွန်မြင့်မားစွာ တည်ဆောက်အကောင်အထည်ဖော်နေရာချထားပေးခဲ့သည်။ စံပြကျေးရွာသစ်များတွင် စုစုပေါင်း လူနေသစ်သားနှစ်ထပ်အိမ် ၄၁၀ လုံး၊ အထက်တန်းကျောင်း တစ်ကျောင်းနှင့် တိုးချဲ့နှစ်ထပ်ဆောင် တစ်ဆောင်၊ မူလတန်းကျောင်း သုံးကျောင်း၊ ရဲစခန်း တစ်ခု၊ စာတိုက် တစ်ခု၊ မီးသတ်အဆောက်အအုံတွဲလျက် အထွေထွေ အုပ်ချုပ်ရေးရုံး တစ်ရုံး၊ ၁၆ ခုတင်ဆန့် ဆေးရုံတစ်ရုံ၊ ဗုဒ္ဓဘာသာ/ ခရစ်ယာန်ဘာသာရေးအဆောက်အအုံ လေးလုံးတို့ကို ဆောက်လုပ်ပေးခဲ့သည်။



**မြစ်ဆုံရေအားလျှပ်စစ်စီမံကိန်းနှင့်ပတ်သက်၍ ပညာရှင်များထောက်ပြချက်များ**

၁၂။ ဧရာဝတီမြစ်၏ ရေဝေ ရေလဲဒေသများတွင် သစ်တောများပြုန်းတီးလာခြင်း၊ မြစ်လက်တက်များတွင် ဆည်တည်ဆောက်ခြင်း၊ ရွှေနှင့်ဓာတ်သတ္တုများ အလွန်အကျွံတူးဖော်ခြင်း၊ မြစ်ကမ်းနံဘေးတွင် ဓာတ်မြေဩဇာစက်ရုံများ တည်ဆောက်ခြင်း၊ ရွှေ့ပြောင်းတောင်ယာနှင့် စိုက်ပျိုးမြေများ ချဲ့ထွင်လာခြင်းတို့ကြောင့် သောက်သုံးရေရှားပါးလာခြင်း၊ သောင်ထွန်းမှု ပိုမိုများပြားလာသဖြင့် ရေကြောင်းသွားလာမှုခက်ခဲလာခြင်း၊ ငါးသယံဇာတ ရှားပါးလာခြင်းနှင့် မြစ်ကျိုးအင်းများ တိမ်ကောလာမှုတို့ကြောင့် ဒေသခံလူထုများ အသက်မွေးမှုကို ထိခိုက်ခြင်း၊ မိုးတွင်းကာလတွင် မြစ်ရေကြီးမှုကြောင့် ရေလွှမ်းမိုးမှုများဖြစ်ပေါ်ခြင်း စသည်များ ကြုံတွေ့နေရသည်။ သို့ဖြစ်၍ မြစ်၏အထက်ပိုင်းမြစ်ဆုံဒေသတွင် ရေများကို ပိတ်ဆို့၍ ဆည်တည်ဆောက်ပါက ယခုရင်ဆိုင်နေရသော အခြေအနေများ ပိုမိုဆိုးရွားသွားနိုင်ပြီး မြစ်တိမ်ကောမည့်အန္တရာယ်နှင့် ရင်ဆိုင်ရဖွယ်ရှိကြောင်း ပညာရှင်များမှ ထောက်ပြသည်။

## နိုင်ငံတော်သမ္မတ ဦးသိန်းစိန် (၂၆-၁-၂၀၁၂) ရက်နေ့ ပထမအကြိမ် ပြည်သူ့လွှတ်တော် တတိယပုံမှန်အစည်းအဝေးနှင့် ပထမအကြိမ် အမျိုးသားလွှတ်တော် တတိယပုံမှန်အစည်းအဝေးတို့သို့ သက်ဆိုင်ရာ လွှတ်တော်ဥက္ကဋ္ဌများလိပ်မူလျက်ပေးပို့သော သဝဏ်လွှာမှ ကောက်နုတ်ချက်

- ❐ လွှတ်တော်ဥက္ကဋ္ဌနှင့် ကိုယ်စားလှယ်များက နိုင်ငံနှင့် ပြည်သူ့အကျိုးငှာ ဥပဒေရေးရာဝါဒရေးရာများကို အားသွန်ခွန်စိုက် ညှိနှိုင်းဆွေးနွေးဆုံးဖြတ်ဆောင်ရွက်လျက်ရှိသကဲ့သို့ မိမိတို့ပြည်ထောင်စုအစိုးရ၊ တိုင်းဒေသကြီးနှင့် ပြည်နယ်အစိုးရအဖွဲ့များကလည်း ၃၀-၃-၂၀၁၁ရက်က ပြည်ထောင်စုလွှတ်တော်တွင် ပြောကြားခဲ့သည့် ပြည်ထောင်စုအစိုးရသစ်၏ မူဝါဒသဘောထားလမ်းစဉ်များနှင့်အညီ အားကြိုးမာန်တက် အကောင်အထည်ဖော် ဆောင်ရွက်လျက်ရှိပါကြောင်း။

- ❐ နိုင်ငံနှင့်ပြည်သူတို့ ကတိကဝတ်ပြုခဲ့ပြီးဖြစ်သည့်အတိုင်း နိုင်ငံတည်ငြိမ်အေးချမ်းရေးနှင့် တရားဥပဒေစိုးမိုးရေး၊ အမျိုးသားပြန်လည်စည်းလုံးညီညွတ်ရေး၊ ဒီမိုကရေစီကျင့်စဉ်များထွန်းကားရေး၊ ကောင်းမွန်သော အုပ်ချုပ်ရေးနှင့် သန့်ရှင်းသောအစိုးရဖြစ်ပေါ်ရေး၊ ဖွဲ့စည်းပုံအခြေခံဥပဒေပါပြဋ္ဌာန်းချက်များနှင့်အညီ နိုင်ငံသားများ၏ မူလအခွင့်အရေးများရရှိရေး၊ ပညာရေးနှင့် ကျန်းမာရေး အဆင့်အတန်းမြှင့်တင်ရေး၊ နိုင်ငံနှင့်ပြည်သူ၏ အနာဂတ်လူမှုစီးပွားဘဝ ဖွံ့ဖြိုးတိုးတက်မြင့်မားရေးနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး လုပ်ငန်းများကို ကိုယ်စွမ်းရှိသမျှ ပြုပြင်ပြောင်းလဲကြိုးပမ်းဖော်ဆောင်လျက်ရှိပါကြောင်း။

- ❐ အထူးသဖြင့် ပြည်သူတို့၏လိုလားတောင့်တချက်ဖြစ်သည့် နိုင်ငံတော်တည်ငြိမ်အေးချမ်းရေး၊ နိုင်ငံတော်ခေတ်မီဖွံ့ဖြိုးတိုးတက်ရေးနှင့် ပြည်သူတို့၏ လူမှုစီးပွားဘဝဖွံ့ဖြိုးတိုးတက်ရေး၊ ဒီမိုကရေစီဖော်ဆောင်ရေး သို့မဟုတ် ဥပဒေနှင့်အညီ လွတ်လပ်စွာနေထိုင်လုပ်ကိုင်စားသောက်နိုင်ရေးတို့ကို အလေးထားပြီး တစိုက်မတ်မတ် ကြိုးပမ်းဖော်ဆောင်ပေးလျက်ရှိပါကြောင်း။

- ❐ နိုင်ငံတော်တည်ငြိမ်အေးချမ်းရေးအတွက် အမျိုးသားစည်းလုံးညီညွတ်ရေး ဖော်ဆောင်နိုင်ရန်မှာ အမြင်သဘောထားမတူသည်များကိုထားပြီး အမြင်



သဘောထားတူညီသည်များကို ပြည်သူများအကျိုးအတွက် ပူးပေါင်းဆောင်ရွက်ရေးမူဖြင့် ကြိုးပမ်းဆောင်ရွက်ခဲ့ပါကြောင်း၊ အမျိုးသားနိုင်ငံရေးလုပ်ငန်းစဉ်များတွင် အားလုံးပါဝင်နိုင်အောင် ဆောင်ရွက်သင့်သည်များကိုလည်း ဆောင်ရွက်ပေးခဲ့ပါသည်။ အကြောင်းအမျိုးမျိုးဖြင့် ပြည်ပရောက်နေကြသော နိုင်ငံသားများကိုလည်း နိုင်ငံတော်တည်ဆောက်ရေးလုပ်ငန်းစဉ်များတွင် ပါဝင်နိုင်အောင် လက်ကမ်းဖိတ်ခေါ်ခဲ့ပါသည်။ ထိုသို့ဆောင်ရွက်မှုကြောင့် အမျိုးသားပြန်လည်စည်းလုံးညီညွတ်ရေး တိုးတက်ကောင်းမွန်လာပြီး ပြည်တွင်းနိုင်ငံရေးတည်ငြိမ်မှုရှိလာသည်ကိုလည်း တွေ့မြင်နိုင်ပါကြောင်း။

- ❐ နိုင်ငံခေတ်မီဖွံ့ဖြိုးတိုးတက်စေရန်နှင့် ပြည်သူတို့၏ လူမှုစီးပွားဘဝ ဖွံ့ဖြိုးတိုးတက်စေရန်ရည်စူး၍ စီးပွားရေး၊ ပညာရေး၊ ကျန်းမာရေး၊ စိုက်ပျိုးရေးဆိုင်ရာပြုပြင်ပြောင်းလဲမြှင့်တင်မှုများကိုလည်း တစိုက်မတ်မတ် ဆောင်ရွက်လျက်ရှိပါကြောင်း၊ နိုင်ငံ၏ စီးပွားရေးအဆောက်အအုံတစ်ခုလုံး ပြောင်းလဲတိုးတက်လာစေရန်အတွက် ငွေကြေးမူဝါဒ၊ ဘဏ္ဍာရေးမူဝါဒ၊ ကုန်သွယ်ရေးမူဝါဒနှင့် ရင်းနှီးမြှုပ်နှံမှုမူဝါဒများကို ပြန်လည်သုံးသပ်ပြီး ပြုပြင်သင့်သည်များကို အရှိန်အဟုန်ဖြင့် ပြုပြင်ဆောင်ရွက်ပေးလျက်ရှိပါကြောင်း၊ အထူးသဖြင့် ရင်းနှီးမြှုပ်နှံမှုနယ်ပယ်၌ ပြင်ပရင်းနှီးမြှုပ်နှံမှုများ ပိုမိုဝင်ရောက်လာနိုင်ရန် ရေခံမြေခံပတ်ဝန်းကျင်ကောင်းများ ဖြစ်ထွန်းလာရေး ပြုပြင်ဖော်ဆောင်ပေးလျက်ရှိပါကြောင်း၊ ကူးသန်းရောင်းဝယ်မှုလုပ်ငန်းများ၊ ပို့ကုန်သွင်းကုန်လုပ်ငန်းများ သွက်လက်ချောမွေ့ ဖွံ့ဖြိုးလာစေရေးအတွက်လည်း လုပ်ထုံးလုပ်နည်းများဆိုင်ရာ ဖြေလျှော့မှုများ ဆောင်ရွက်ပေးလျက်ရှိပါကြောင်း။

- ❐ ထို့ပြင် ပြည်သူများ တောင်သူလယ်သမားများနှင့် အလုပ်သမားများ၏ လူမှုစီးပွားဘဝ ဖွံ့ဖြိုးလာစေရန် တက်နိုင်သမျှ ကူညီဆောင်ရွက်ရမည်ဟူသည့် အခြေခံဥပဒေပါ ပြဋ္ဌာန်းချက်နှင့်အညီ ကျေးလက်ဒေသဖွံ့ဖြိုးရေးနှင့် ဆင်းရဲနွမ်းပါးမှုလျှော့ချရေးလုပ်ငန်းစဉ်များကိုလည်း နိုင်ငံတစ်ဝန်းလုံး၌ လက်တွေ့ကျကျ အကောင်အထည်ဖော်ဆောင်ရွက်လျက်ရှိပါကြောင်း၊ လုပ်ငန်းကဏ္ဍ (၈)ရပ် ချမှတ်ပြီး တစ်နိုင်ငံလုံးရှိ မြို့နယ်ပေါင်း ၃၃၀၊ မြို့နယ်ခွဲ ၈၂ ခုတို့၌ အောက်ခြေအထိ ဆင်းပြီး ကျေးလက်ပြည်သူများနှင့်ပူးပေါင်းလျက် လက်တွေ့ထိရောက်အောင်မြင်အောင် ဆောင်ရွက်လျက်ရှိပါကြောင်း။

- ဒီမိုကရေစီဖော်ဆောင်ရေး သို့မဟုတ် ဥပဒေနှင့်အညီ လွတ်လပ်စွာ နေထိုင်လုပ်ကိုင်စားသောက်နိုင်ရေးအတွက်လည်း ဒီမိုကရေစီရေး၊ လူ့အခွင့်အရေးများကို အခြေခံဥပဒေနှင့်အညီ မြှင့်တင်ဖော်ဆောင်ပေးလျက်ရှိပါကြောင်း။

- ထိုသို့ ဘက်စုံ၊ ထောင့်စုံ၊ ကဏ္ဍစုံတွင် ပြုပြင်ပြောင်းလဲမှုများဖြင့် နိုင်ငံနှင့်ပြည်သူတို့၏အကျိုးကို အကောင်အထည်ဖော်ဆောင်ရွက်မှုများနှင့် တစ်ပြိုင်တည်း နိုင်ငံတကာဆက်ဆံရေးကိုလည်း ကျယ်ကျယ်ပြန့်ပြန့် မြှင့်တင်ဆောင်ရွက်ခဲ့ရာ နိုင်ငံတကာနှင့် ချစ်ကြည်မှု၊ နားလည်မှုများ ပိုမိုမြင့်မားလာသည်ကို တွေ့မြင်နိုင်ပါကြောင်း။

- မိမိတို့နိုင်ငံသည် ပါတီစုံဒီမိုကရေစီစနစ်နှင့် နှစ်ပေါင်း (၄၀)ကျော် ကင်းကွာခဲ့ရသည့်အတွက် ယခုကဲ့သို့ လွှတ်တော်အဆင့်ဆင့် ပေါ်ပေါက်လာချိန်တွင် လွှတ်တော်အတွင်း လုပ်ထုံးလုပ်နည်းများနှင့် စပ်လျဉ်း၍ ခက်ခက်ခဲခဲ ရှာဖွေလေ့လာကျင့်သုံးခဲ့ရသည်ကို တွေ့ရှိရပါကြောင်း၊ သို့သော်လည်း လွှတ်တော်ဥက္ကဋ္ဌများ၏ စွမ်းရည်ရှိရှိ ဦးဆောင်မှု၊ လွှတ်တော်ကိုယ်စားလှယ်များ၏ ပါဝင်ပူးပေါင်းကြိုးပမ်းဆောင်ရွက်မှုများကြောင့် နိုင်ငံနှင့်ပြည်သူများအကျိုးအတွက် အဓိကကျသည့် ဥပဒေသစ်များ ပြဋ္ဌာန်းခြင်း၊ ဥပဒေဟောင်းများကို ပြင်ဆင်ဖြည့်စွက်ခြင်း၊ အရေးကြီးသည့် မူဝါဒများကို ဆွေးနွေးချမှတ်ခြင်း စသည်တို့ကို အောင်မြင်စွာ ဆောင်ရွက်နိုင်ခဲ့ကြောင်း ဝမ်းသာဂုဏ်ယူဖွယ် တွေ့ရှိရပါကြောင်း။

- မိမိတို့ပြည်ထောင်စုအစိုးရအဖွဲ့အနေဖြင့်လည်း ပြည်သူ့လွှတ်တော်၊ အမျိုးသားလွှတ်တော်တို့နှင့် လက်တွဲပြီး နိုင်ငံနှင့်ပြည်သူတို့၏ အနာဂတ်ဘဝ သာယာလှပစေရန်အတွက် တရားမျှတခြင်း၊ လွတ်လပ်ခြင်းနှင့် ညီမျှခြင်းတည်းဟူသော လောကပါလတရားများ ထွန်းကားသည့် ခေတ်မီဖွံ့ဖြိုးတိုးတက်သော ဒီမိုကရေစီနိုင်ငံတော်ကြီး ဖြစ်ထွန်းပေါ်ပေါက်လာစေရန်နှင့် ရေရှည်တည်တံ့ရှင်သန်နိုင်စေရန် ကြိုးပမ်းအကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဖြစ်ကြောင်း သဝဏ်လွှာအဖြစ် ပေးပို့အပ်ပါကြောင်း။



## နိုင်ငံတော်သမ္မတ ဦးသိန်းစိန် (၁၉-၆-၂၀၁၂) ရက်နေ့ ပြည်ထောင်စုအဆင့် အဖွဲ့အစည်းဝင်ပုဂ္ဂိုလ်များ၊ တိုင်းဒေသကြီး/ ပြည်နယ်အစိုးရအဖွဲ့ ဝန်ကြီးချုပ်များ၊ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ တိုင်း/ဒေသဥက္ကဋ္ဌများ၊ ဒုတိယဝန်ကြီးများနှင့် ဌာနဆိုင်ရာအကြီးအကဲများအား ပြောကြားသည့် မိန့်ခွန်းကောက်နုတ်ချက်

- နိုင်ငံတော်အစိုးရအနေနဲ့ စတင်တာဝန်ယူတဲ့ ပထမနှစ်မှာ နိုင်ငံရေးပြုပြင်ပြောင်းလဲမှုများ၊ အမျိုးသားပြန်လည်စည်းလုံးညီညွတ်ရေးလုပ်ငန်းများကို အရှိန်အဟုန်နဲ့ဆောင်ရွက်ခဲ့ပြီး ယခုနှစ်က စတင်ဆောင်ရွက်လျက်ရှိတဲ့ ဒုတိယအဆင့်ပြုပြင်ပြောင်းလဲရေးလုပ်ငန်းစဉ်များမှာ နိုင်ငံတော်နှင့် ပြည်သူတို့ရဲ့ အကျိုးစီးပွား ဖွံ့ဖြိုးတိုးတက်မှုကို အထူးအလေးထားဆောင်ရွက်သွားမှာဖြစ်ပါတယ်။ တစ်ဘက်ကလည်း အမျိုးသားပြန်လည်စည်းလုံးညီညွတ်ရေး၊ နိုင်ငံတော်တည်ငြိမ်အေးချမ်းရေးနှင့် တရားဥပဒေစိုးမိုးရေး၊ ပြည်သူ့ဘဝလုံခြုံရေးတို့ကို အရှိန်အဟုန်မပျက် တိုးတက်အောင် ဆက်လက်ဆောင်ရွက်သွားမှာဖြစ်ပါတယ်။

- နိုင်ငံတော်အနေနဲ့ ၅ နှစ်တာကာလအတွင်း တစ်မျိုးသားလုံးရဲ့ ပြည်တွင်းအသားတင်ထုတ်လုပ်မှုတန်ဖိုး(ဂျီဒီပီ)ကို ၂၀၁၀-၂၀၁၁ ခုနှစ် ပုံမှန်ဈေးနှုန်းအရ တစ်နှစ်ပျမ်းမျှ ၇ ဒသမ ၇ ရာခိုင်နှုန်း တိုးတက်ရန်၊ နိုင်ငံတော်ရဲ့ ဂျီဒီပီမှာ လယ်ယာကဏ္ဍကြီး၏ ပါဝင်မှုအချိုးအစားကို ၃၆ ဒသမ ၄ ရာခိုင်နှုန်းမှ ၂၉ ဒသမ ၂ ရာခိုင်နှုန်းသို့လည်းကောင်း၊ စက်မှုကဏ္ဍကြီး၏ ပါဝင်မှုအမျိုးအစားကို ၂၆ ရာခိုင်နှုန်းမှ ၃၂ ဒသမ ၁ ရာခိုင်နှုန်းသို့လည်းကောင်း၊ ဝန်ဆောင်မှုကဏ္ဍကြီး၏ ပါဝင်မှုအမျိုးအစားကို ၃၇ ဒသမ ၆ ရာခိုင်နှုန်းမှ ၃၈ ဒသမ ၇ ရာခိုင်နှုန်းသို့လည်းကောင်း အသီးသီးပြောင်းလဲဖြစ်ပေါ်စေရန်၊ လူတစ်ဦးစီရဲ့ ပျမ်းမျှပြည်တွင်းအသားတင်ထုတ်လုပ်မှု တန်ဖိုး (Per Capital GDP) ကို အခြေခံနှစ်ထက် ၁ ဒသမ ၇ ဆ တိုးတက်စေရန် ရည်မှန်းထားပါတယ်။

- တွက်ချက်ရရှိထားတဲ့ ဂျီဒီပီတိုးတက်မှုနှုန်းအရ ၂၀၁၅-၂၀၁၆ ဘဏ္ဍာနှစ်မှာ ဖြစ်ပေါ်လာမယ့် ပြည်သူများရဲ့ ပျမ်းမျှတစ်ဦးကျ ဂျီဒီပီဟာ အခြေခံနှစ်ထက်

၁ ဒသမ ၇ ဆ ရရှိရန် တွက်ချက်ခန့်မှန်းထားသော်လည်း ကျွန်တော်တို့အစိုးရအနေနဲ့ကတော့ ပျမ်းမျှတစ်ဦးကျ ဂျီဒီပီကို အခြေခံနှစ်ထက် သုံးဆတိုးတက်အောင် ကြိုးစားသွားဖို့ ရည်မှန်းထားပါတယ်။ တစ်နည်းအားဖြင့် ပြည်သူတွေရဲ့ စားဝတ်နေရေးလိုအပ်ချက်တွေ ဖြည့်ဆည်းနိုင်အောင်၊ အမှန်တကယ် ဝင်ငွေတိုးတက်အောင် ကြိုးစားပေးရမှာဖြစ်ပါတယ်။

- ❐ နိုင်ငံတော်အနေနဲ့ ပဥ္စမကာလတို ငါးနှစ်စီမံကိန်းရေးဆွဲအတည်ပြုပြီးသည့်နောက် နှစ် ၃၀ နှစ်ရှည်စီမံကိန်းကို ပြန်လည်သုံးသပ်ရေးဆွဲခြင်းလုပ်ငန်းအပြင် အမျိုးသားဖွံ့ဖြိုးတိုးတက်ရေးစီမံကိန်း(National Development Plan)ကို ကျေးလက်ဒေသဖွံ့ဖြိုးရေးနဲ့ ဆင်းရဲမှုလျှော့ချရေးစီမံကိန်း၊ လူ့စွမ်းအားအရင်းအမြစ် ဖွံ့ဖြိုးတိုးတက်ရေးစီမံကိန်း၊ ရင်းနှီးမြှုပ်နှံမှုစီမံကိန်း၊ ကုန်သွယ်မှုကဏ္ဍ ဖွံ့ဖြိုးတိုးတက်ရေးစီမံကိန်း၊ စက်မှုဖွံ့ဖြိုးတိုးတက်ရေးစီမံကိန်း၊ ဘဏ္ဍာရေးနှင့် ငွေရေးကြေးရေးကဏ္ဍ ဖွံ့ဖြိုးတိုးတက်ရေးစီမံကိန်း၊ ဒေသန္တရစီမံကိန်းများ၊ ကဏ္ဍအလိုက် စီမံကိန်းများ (Comprehensive Development Plan) အဖြစ် ဆက်လက်ရေးဆွဲ အကောင်အထည်ဖော် ဆောင်ရွက်သွားကြရမှာ ဖြစ်ပါတယ်။

- ❐ ပြည်ထောင်စုဝန်ကြီးဌာနအနေနဲ့ တိုင်းဒေသကြီး/ပြည်နယ်အစိုးရများကလည်း (ဂျီဒီပီ)တိုးတက်ရေးထက် ပြည်သူတစ်ဦးချင်း၊ တစ်အိမ်ထောင်ချင်းရဲ့ဝင်ငွေတိုးတက်ရေးနဲ့ လူမှုစီးပွားရေးဘဝ မြင့်မားတိုးတက်ရေးအတွက် ပြည်သူလူထုဗဟိုပြုဖွံ့ဖြိုးတိုးတက်ရေး (People-Centered Development) လုပ်ငန်းတွေကို ဦးစားပေးပြီး အစီအမံရှိရှိနဲ့ မြေပြင်မှာ အမှန်တကယ်တိုးတက်အောင် ကြိုးပမ်းဆောင်ရွက်သွားကြဖို့ တိုက်တွန်းပြောကြားလိုပါတယ်။

- ❐ ဖွံ့ဖြိုးဆဲနိုင်ငံများကိုလေ့လာကြည့်ရင် အဲဒီနိုင်ငံတွေရဲ့ ဖွံ့ဖြိုးတိုးတက်မှုရည်မှန်းချက်များ (Development Goals) နဲ့ ဆင်းရဲမှုလျှော့ချရေး စတဲ့ထောင်စုနှစ်ရည်မှန်းချက်များ (Millennium Development Goals) ကို အောင်မြင်အောင် ကြိုးပမ်းဆောင်ရွက်ရာမှာ နိုင်ငံရဲ့ဘတ်ဂျက်ငွေတစ်ခုတည်းနဲ့ မလုံလောက်တဲ့အတွက် နိုင်ငံတကာအကူအညီ အထောက်အပံ့ (Grant / Aid)၊ ချေးငွေ (Loan) နဲ့ နည်းပညာအကူအညီများ ရယူဆောင်ရွက်ကြရတာ တွေ့ရပါတယ်။ ဒီလို ရယူဆောင်ရွက်တဲ့အခါမှာ ကူညီထောက်ပံ့ကြတဲ့နိုင်ငံများ၊ အလှူရှင်နိုင်ငံများအနေနဲ့ ၎င်းတို့ ကူညီထောက်ပံ့လိုတဲ့ကဏ္ဍနဲ့ နယ်မြေ/ဧရိယာ ဦးစားပေးမှုအစီအစဉ်အမျိုးမျိုး၊ ရည်ရွယ်ချက်အမျိုးမျိုးရှိကြပြီး အကူအညီရယူတဲ့ နိုင်ငံကလည်း မိမိတို့ရဲ့ ဦးစားပေးကဏ္ဍနဲ့ နယ်မြေများကို မိမိတို့ရဲ့ ဖွံ့ဖြိုးမှုစီမံကိန်း(Development Plan) နဲ့ ပြုပြင်ပြောင်းလဲရေး မဟာဗျူဟာ (Reform Strategy) လုပ်ငန်းစဉ်ဦးစားပေး အစီအစဉ်များနဲ့ အကျိုးရှိထိရောက်အောင် ရည်ရွယ်ဆောင်ရွက်ကြတာဖြစ်ပါတယ်။



- ❐ ပြည်သူများရဲ့ အလုပ်အကိုင် အခွင့်အလမ်းများ ဖန်တီးပေးရာမှာ အလုပ်ရရုံသက်သက်မဟုတ်ဘဲ ထိုက်သင့်သော အခြေခံလုပ်ခလစာများ ပြည့်ပြည့်ဝဝရရှိရေးအတွက် အလေးထားဆောင်ရွက်ပေးရမှာဖြစ်ပါတယ်။ ဒါကြောင့် ပြည်ထောင်စုအစိုးရအနေနဲ့ အခြားနိုင်ငံများနည်းတူ အနည်းဆုံး အခကြေးငွေဥပဒေတစ်ရပ် ရေးဆွဲပြီး လွှတ်တော်ကို တင်သွင်းရန် စီစဉ်ထားပါတယ်။

- ❐ တိုင်းပြည်ရဲ့ စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို နိုင်ငံတကာနှင့် ရင်ဘောင်တန်းနိုင်ဖို့အတွက် ကုန်သွယ်မှုနှင့် ရင်းနှီးမြှုပ်နှံမှုတို့ဟာ အဓိက မောင်းနှင်အားဖြစ်ပါတယ်။ ပြည်သူများရဲ့ အလုပ်အကိုင် အခွင့်အလမ်းများနဲ့ လူမှုစီးပွားရေးတိုးတက်မှုအတွက် ပြည်တွင်းပြည်ပ ရင်းနှီးမြှုပ်နှံမှုများကို တစ်ဘက်ကတိုးတက်ဖို့ ကြိုးပမ်းရမှာဖြစ်သလို တစ်ဘက်ကလည်း မိမိနိုင်ငံနှင့်လူမျိုး၊ အကျိုးစီးပွား မထိခိုက်ရေး၊ နိုင်ငံရဲ့ ဂုဏ်သိက္ခာ မထိခိုက်ရေး၊ နိုင်ငံရဲ့ အချုပ်အခြာအာဏာ မထိခိုက်ရေးနှင့် သဘာဝပတ်ဝန်းကျင် မထိခိုက်ရေးတို့ကိုလည်း ရပ်တည်စောင့်ထိန်းရမှာဖြစ်ပါတယ်။ မြေသယံဇာတ၊ ရေသယံဇာတ၊ သစ်တောသယံဇာတ၊ သတ္တုသယံဇာတ စတဲ့ သဘာဝသယံဇာတ အရင်းအမြစ်တွေကို နောင်သားစဉ်မြေးဆက်အထိ စနစ်တကျ သုံးစွဲနိုင်တဲ့ စဉ်ဆက်မပြတ် ဖွံ့ဖြိုးတိုးတက်မှု (Sustainable Development) ရရှိရေးကို စနစ်တကျ စီမံတွက်ချက်အသုံးပြုဆောင်ရွက်သွားကြဖို့ လိုအပ်ပါတယ်။

- ❐ မြို့ကွက်၊ ရွာကွက်၊ အိမ်ကွက်၊ စိုက်ကွက်နှင့် တခြားစီးပွားရေးလုပ်ကွက်များကိုလည်း တိကျမှန်ကန်စွာ စာရင်းကောက်ယူမှတ်ပုံတင်စာရင်းသွင်းခြင်း၊ အရောင်းအဝယ် ပြုလုပ်မှုများကို အခွန်အကောက် လုပ်ထုံးလုပ်နည်းများနှင့် ဆက်စပ်ညှိနှိုင်း၍ ပိုင်ဆိုင်မှုစာရင်းများ တိကျမှန်ကန်အောင် ဆောင်ရွက်ပေး

ခြင်းများကိုလည်း အခြေခံခိုင်မာအောင် ဆောင်ရွက်သွားရမှာဖြစ်ပါတယ်။

- ❒ နိုင်ငံတကာမှာ ရောက်ရှိနေပြီး အောင်မြင်နေကြတဲ့ စီးပွားရေးပညာရှင်များ၊ လုပ်ငန်းကဏ္ဍအလိုက် စီမံကိန်းဆိုင်ရာ ကျွမ်းကျင်သူများ၊ စီးပွားရေးလုပ်ငန်းရှင်ကြီးများကိုလည်း နိုင်ငံဖွံ့ဖြိုးတိုးတက်ရေးအတွက် နိုင်ငံတော်အစိုးရနဲ့အတူ လာရောက်လက်တွဲ ပူးပေါင်းဆောင်ရွက်ကြပါလို့ လှိုက်လှဲစွာ ဖိတ်ခေါ်အပ်ပါတယ်။

- ❒ နိုင်ငံတော်အစိုးရအနေနဲ့ ပြည်တွင်းပြည်ပနဲ့ဆက်သွယ်ပြီး လျှပ်စစ်ဓာတ်အား ဖြည့်ဆည်းပေးတဲ့ လတ်တလော အစီအမံများကို အမြန်စီမံဆောင်ရွက်နေပါတယ်။ သို့ရာတွင် ရေတို၊ ရေရှည်အတွက် ပြည်သူတို့ရဲ့လိုအပ်ချက်နဲ့ တိုင်းပြည်ဖွံ့ဖြိုးတိုးတက်မှုအတွက် စွမ်းအင်နဲ့ လျှပ်စစ်ကဏ္ဍကို ချိတ်ဆက်ပြီး စနစ်တကျ စီမံဆောင်ရွက်ဖို့ လိုအပ်ပါတယ်။ ဒါကြောင့် ဒီနေ့စီမံကိန်းကော်မရှင်မှာ နိုင်ငံတော်ရဲ့ စွမ်းအင်ကိစ္စ အရပ်ရပ်အတွက် အမျိုးသားစွမ်းအင် စီမံခန့်ခွဲမှုကော်မတီ(National Energy Management Committee) ကိုဖွဲ့စည်းပြီး ရေတို၊ ရေရှည် အစီအမံများအတွက် အမျိုးသားလျှပ်စစ်စီမံကိန်း (National Electricity Plan) ကို အမျိုးသားစွမ်းအင်မူဝါဒ (National Energy Policy) နှင့်အညီ ရေးဆွဲဆောင်ရွက်သွားမှာဖြစ်ပါတယ်။ အမျိုးသား လျှပ်စစ်စီမံကိန်း ရေးဆွဲပြီးရင် ဆက်စပ်ဆောင်ရွက်သွားရမယ့် ရေနံ၊ သဘာဝဓာတ်ငွေ့၊ ကျောက်မီးသွေး စတဲ့ စွမ်းအင်ဆိုင်ရာ စီမံကိန်းများကိုလည်း ရေးဆွဲအကောင်အထည်ဖော်သွားကြရမှာ ဖြစ်ပါတယ်။

- ❒ စက်မှုနိုင်ငံဖြစ်ရေးနဲ့ စက်မှုဖွံ့ဖြိုးတိုးတက်ရေးကို ဦးတည်ရည်မှန်း ဆောင်ရွက်ရာမှာ အဓိက  အလိုအပ်ဆုံးဖြစ်တဲ့ စွမ်းအင်ကဏ္ဍ ဖွံ့ဖြိုးတိုးတက်ရေးနဲ့ စက်မှုကဏ္ဍ ဖွံ့ဖြိုးတိုးတက်ရေးတို့ဟာ အပြန်အလှန် ဆက်စပ်မှီခိုနေတာကြောင့် (Energy Plan) နဲ့ (Industrial Development Plan) တွေကို စနစ်တကျ ရေးဆွဲချမှတ်နိုင်မှသာလျှင် နိုင်ငံနဲ့ပြည်သူလူထုရဲ့ လိုအပ်ချက်ဖြစ်တဲ့ ကုန်စည်ဝန်ဆောင်မှုများ၊ အလုပ်အကိုင် အခွင့်အလမ်းများကို တိုးတက်စီမံဆောင်ရွက်ပေးနိုင်မှာဖြစ်ပါတယ်။



- ❒ ပြည်သူလူထုဗဟိုပြု ဖွံ့ဖြိုးတိုးတက်ရေးအတွက် ပြည်သူလူထုရဲ့ ဆန္ဒသဘောထား (Public Opinion) တွေကို ဆွေးနွေးရယူခြင်းနည်းလမ်းနဲ့ အပြန်အလှန် ယုံကြည်လေးစားမှု၊ ပြည်သူလူထုတစ်ရပ်လုံး ညီညွတ်စွာ ပူးပေါင်းပါဝင်ဆောင်ရွက်နိုင်ခြင်း နိုင်ငံရေး၊ စီးပွားရေး၊ လူမှုရေးအခြေအနေများဟာ အရှိန်အဟုန်နဲ့ လျင်မြန်စွာ တိုးတက်ပြောင်းလဲသွားမှသာ အဲဒီလို စည်းကမ်းပြည့်ဝတဲ့ ဒီမိုကရေစီကျင့်စဉ်မျိုးကို တစ်ဆင့်ပြီးတစ်ဆင့် အေးချမ်းတည်ငြိမ်စွာနဲ့ အသွင်ကူးပြောင်းနေတဲ့အချိန်မှာ ဒီမိုကရေစီခေတ်မှာ ပြည်သူ့ဆန္ဒဖော်ထုတ်တယ်ဆိုပြီး လမ်းမပေါ် လူအုပ်နဲ့ထွက် အစုအဝေးနဲ့ သွေးထိုးမှုပါလာတဲ့အခါ မဖြစ်သင့် မဖြစ်ထိုက်တဲ့ ပြည်သူအများစုရဲ့ အသက်အိုးအိမ်လုံခြုံမှုထိခိုက်တဲ့ ဖြစ်စဉ်အထိ ရုတ်ခြည်းပြောင်းလဲသွားတတ်တဲ့ ဖြစ်စဉ်သဘောသဘာဝကို ရင့်ကျက်ယဉ်ကျေးသော တိုင်းပြည်တိုးတက်အောင် ညီညွတ်စွာ ကြိုးပမ်းဆောင်ရွက်နိုင်သော ကမ္ဘာ့အလယ်မှာ သားစဉ်မြေးဆက် ရပ်တည်နိုင်အောင် စွမ်းဆောင်ရည်ရှိသော လူမျိုးအဖြစ် အစိုးရ၊ လွှတ်တော်၊ ပြည်သူများအားလုံးနဲ့ စတုတ္ထမဏ္ဍိုင်တို့ပူးပေါင်းပြီး ညီညီညွတ်ညွတ် ခိုင်ခိုင်မာမာ လက်တွဲကာကွယ်စောင့်ရှောက်သွားရမှာဖြစ်ပါတယ်။

## နိုင်ငံတော်သမ္မတ ဦးသိန်းစိန် (၃-၇-၂၀၁၂) ရက်နေ့ ပြည်ထောင်စုငြိမ်းချမ်းရေးဗဟိုကော်မတီ ပထမအကြိမ်အစည်းအဝေးတွင် ပြောကြားသည့် အမှာစကားကောက်နုတ်ချက်

- ❒ မိမိတို့အစိုးရသည် ပြည်သူများက ရွေးချယ်ပေးလိုက်သော ပြည်သူ့ကိုယ်စားလှယ်အများစုဖြင့် ဖွဲ့စည်းထားသည့် အစိုးရဖြစ်ပါကြောင်း၊ ပြည်သူ့အစိုးရဖြစ်သည်နှင့်အညီ ပြည်သူ့သဘောထားကို လေးစားလိုက်နာရမည်ဖြစ်သည်။ ပြည်သူအများစု၏ဆန္ဒကိုလည်း အကောင်အထည်ဖော်ဆောင်ရွက်ပေးရန် တာဝန်ရှိလာပါကြောင်း၊ ပြည်သူ၏သဘောထားသည် စနစ်ဟောင်းတစ်ခုမှ စနစ်သစ်တစ်ခုသို့ ပြောင်းလဲရန်ဖြစ်ပြီး ပြည်သူအများစု၏ဆန္ဒသည် တိုင်းပြည်တည်ငြိမ်အေးချမ်းရေးနှင့် လူမှုစီးပွားဖွံ့ဖြိုးတိုးတက်ရေးပင်ဖြစ်ပါကြောင်း။

- ❒ စနစ်ဟောင်းမှ စနစ်သစ်သို့ကူးပြောင်းရာတွင် ပြည်သူများသည် စာရွက်ပေါ်တွင်သာ ကူးပြောင်းခြင်းမျိုးမဟုတ်ဘဲ လက်တွေ့ကျသည့်အပြောင်းအလဲ (Change) ကို လိုလားနေခြင်းဖြစ်ပါကြောင်း၊ ထိုသို့ပြောင်းလဲရာတွင် တိုင်းပြည်၏ အခြေခံအုတ်မြစ်ဖြစ်သည့် နိုင်ငံရေးနှင့် စီးပွားရေးကို ဦးတည်ပြောင်းလဲရမည်ဖြစ်ပါကြောင်း၊ သို့သော်လည်း ပြုပြင်ပြောင်းလဲမှုအားလုံးသည် တစ်ခုနှင့်တစ်ခု ဆက်စပ်နေသည့်အတွက် အဆိုပါလုပ်ငန်းစဉ်အားလုံးသည်ပင် စနစ်သစ်ဖြင့် နိုင်ငံတော်ကို တည်ဆောက်ရန်ဖြစ်ပါကြောင်း။

- ❒ နိုင်ငံရေးပြုပြင်ပြောင်းလဲမှုများဆောင်ရွက်ရာတွင် အရာရာကို (Rule of Law) အတိုင်းဖြစ်ရန် အားထုတ်ကြိုးပမ်းရမည်ဖြစ်ပါကြောင်း၊ တိုင်းရင်းသားပဋိပက္ခ၊ တစ်နည်းအားဖြင့် လူမျိုးစုလက်နက်ကိုင်တိုက်ပွဲများ အဆုံးမသတ်နိုင်ခြင်းသည် စီးပွားရေးတိုးတက်မှုကို အဟန့်အတားဖြစ်ပေါ်စေပါကြောင်း၊ တိုင်းရင်းသားလက်နက်ကိုင်လူမျိုးစုများ ပျံ့နှံ့တည်ရှိနေခြင်းသည် ဒီမိုကရေစီနိုင်ငံရေးကျင့်စဉ် တည်ဆောက်ရာတွင် (Rule of Law) ခိုင်ခံ့မှုကို များစွာအားနည်းစေပါကြောင်း၊ ထို့ကြောင့် တိုင်းရင်းသားလက်နက်ကိုင်အဖွဲ့အစည်းများနှင့် ပဋိပက္ခချုပ်ငြိမ်းအောင်ဆောင်ရွက်ရေးသည် နိုင်ငံတော်တည်ဆောက်ရေး၏ အခြေခံအုတ်မြစ်ပင်ဖြစ်ပါကြောင်း။



စီးပွားရေးပြုပြင်ပြောင်းလဲမှုအောင်မြင်စေရန်အတွက် နိုင်ငံရေးပြုပြင်ပြောင်းလဲမှုခိုင်မာနေရန် လိုအပ်ပါကြောင်း၊ အလားတူနိုင်ငံရေးပြုပြင်ပြောင်းလဲမှု ခိုင်မာရန်အတွက် တိုင်းရင်းသားပဋိပက္ခများ ပြေပျောက်စေရန် နိုင်ငံရေးနှင့် စီးပွားရေးအခွင့်အလမ်းများကို တန်းတူညီမျှ ဖန်တီးပေးရန်လိုအပ်ပါကြောင်း။

- ❒ မိမိတို့တိုင်းရင်းသားအားလုံးသည် မြန်မာနိုင်ငံ၏ နယ်နိမိတ်အတွင်း အမိုးအကာတစ်ခုတည်းအောက်တွင် သမိုင်းအစဉ်အဆက် အတူတကွ နေထိုင်လာကြသူများဖြစ်ပါကြောင်း၊ အိမ်ထောင်စုတစ်ခုအတွင်းမှာပင် သည်အဖေ၊ သည်အမေက မွေးဖွားလာကြသော်လည်း သားသမီးများထဲတွင် အသားအရောင်မတူသူ၊ အရပ်အနိမ့်အမြင့်မတူသူ၊ စိတ်နေစိတ်ထားမတူသူ၊ ဓလေ့စရိုက်မတူသူဟူ၍ ရှိတတ်ကြသည့်အတွက် တိုင်းရင်းသားအချင်းချင်း မတူကွဲပြားမှုသည် အဓိကမဟုတ်ဘဲ ပြည်ထောင်စုကြီးကို ချစ်မြတ်နိုးသည့် ပြည်ထောင်စုစိတ်ဓာတ်သည်သာ အဓိကဖြစ်ပါကြောင်း။

- ❒ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကို တိုင်းရင်းသားအားလုံးပိုင်ဆိုင်ကြသည့်အတွက် တန်းတူရည်တူ ဆက်ဆံမှုနှင့် တန်းတူရည်တူအခွင့်အရေး ရသင့်ကြပါကြောင်း၊ တိုင်းရင်းသားတို့၏ တူညီသည့် အဓိကဆန္ဒသည် ပြည်ထောင်စုအတွင်း တိုင်းရင်းသားလူမျိုးစုအားလုံး တန်းတူရည်တူဆက်ဆံမှုနှင့် တန်းတူရည်တူ ညီမျှစွာ အခွင့်အရေးရရှိရေးပင်ဖြစ်ပါကြောင်း။

- ❒ ၂၀၀၈ ခုနှစ် ဖွဲ့စည်းပုံအခြေခံဥပဒေ အခန်း(၈)၊ နိုင်ငံသား၊ နိုင်ငံသားများ၏ မူလအခွင့်အရေးများ ပုဒ်မ ၃၄၈ တွင် “နိုင်ငံတော်သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ မည်သည့်နိုင်ငံသားကိုမျှ လူမျိုး၊ ဇာတိ၊ ကိုးကွယ်ရာဘာသာ၊ ရာထူးဌာနန္တရ၊ အဆင့်အတန်း၊ ယဉ်ကျေးမှု၊ အမျိုးသား၊ အမျိုးသမီး၊ ဆင်းရဲချမ်းသာတို့ကို အကြောင်းပြု၍ ခွဲခြားမှုမရှိစေရ”ဟူ၍ ဥပဒေဖြင့် အကာအကွယ်ပေးထားပြီးဖြစ်ပါကြောင်း၊ တစ်ဖန် ပုဒ်မ ၃၄၇ တွင် “နိုင်ငံတော်သည် မည်သူ့ကိုမဆို ဥပဒေအရာတွင် တန်းတူညီမျှ အခွင့်အရေးရရှိစေရမည်၊ ထို့ပြင် ဥပဒေ၏အကာအကွယ်ကိုလည်း တန်းတူညီမျှစွာ ရယူပိုင်ဆိုင်ခွင့်ပေးရမည်”ဟူ၍ ဖော်ပြပါရှိပါကြောင်း။

- ❒ တိုင်းရင်းသားများ လူမျိုးစုအလိုက် မိမိတို့၏ စာပေ၊ ယဉ်ကျေးမှု၊ အနုပညာ

နှင့် ဓလေ့ထုံးတမ်းများနှင့်ပတ်သက်ပြီး ဖွဲ့စည်းပုံအခြေခံဥပဒေပုဒ်မ ၃၆၅ တွင် "နိုင်ငံသားတိုင်းသည် ဥပဒေနှင့်အညီ မိမိတို့အမြတ်တနိုးထားရှိသော စာပေ၊ ယဉ်ကျေးမှု၊ အနုပညာနှင့် ဓလေ့ထုံးတမ်းတို့ကို လွတ်လပ်စွာ ပြုစုပျိုးထောင်ဆောင်ရွက်ပိုင်ခွင့်ရှိသည်"ဟူ၍ ဖော်ပြပါရှိသည့်အတွက် တိုင်းရင်းသားစည်းလုံးညီညွတ်မှုကို မထိခိုက်အောင်၊ အခြားတိုင်းရင်းသားလူမျိုး တစ်ဦးသို့မဟုတ် အများကို မထိခိုက်အောင် လွှတ်တော်မှ ဥပဒေများပြဋ္ဌာန်းပေးပြီး ခေတ်စနစ်နှင့်အညီ အကောင်အထည်ဖော်ဆောင်ရွက်ပေးမည်ဆိုပါက တိုင်းရင်းသားတို့၏ လိုအင်ဆန္ဒပြည့်ဝကြမည့်အပြင် အမျိုးသားပြန်လည်ပေါင်းစည်းညီညွတ်ရေးနှင့် တိုင်းရင်းသားပဋိပက္ခများကိုပါ ပြေလည်သွားစေမည်ဟု ယုံကြည်ပါကြောင်း။

- ❒ ထို့ကြောင့် တိုင်းရင်းသားများအတွက် အသက်တမျှအရေးကြီးသည့် ဥပဒေအရ ပြဋ္ဌာန်းထားသော တန်းတူရည်တူအခွင့်အရေးများနှင့် အခြားသောတိုင်းရင်းသားအခွင့်အရေးများကို လွှတ်တော်မှ လေ့လာသုံးသပ်ပြီး ဥပဒေပြဋ္ဌာန်းပေးမည်ဆိုပါက မိမိတို့တာဝန်ယူဆောင်ရွက်နေသည့် ပြည်တွင်းငြိမ်းချမ်းရေး ဗဟိုကော်မတီလုပ်ငန်းများ အလျင်အမြန်အောင်မြင်နိုင်မည်ဖြစ်ပါကြောင်း။

- ❒ နိုင်ငံတော်သစ်တည်ဆောက်ရာတွင် နိုင်ငံတော်ဖွံ့ဖြိုးတိုးတက်ရေးအတွက် နိုင်ငံရေးနှင့်စီးပွားရေး ပြုပြင်ပြောင်းလဲမှုများ အောင်မြင်အောင် ဆောင်ရွက်နိုင်ရန် အခြေခံအုတ်မြစ်ဖြစ်သည့် အမျိုးသားပေါင်းစည်းညီညွတ်ရေးနှင့် တိုင်းရင်းသားပဋိပက္ခများ ပြေငြိမ်းရေးအတွက် တိုင်းရင်းသားလက်နက်ကိုင်လူမျိုးစုများနှင့် ငြိမ်းချမ်းရေးဖော်ဆောင်မှုကို ချမှတ်ပေးထားသည့် လုပ်ငန်းတာဝန်များအတိုင်း အောင်မြင်သည်အထိ စိတ်ရှည်သည်းခံမှု၊ နားလည်စာနာမှု၊ တစ်ဦးပေါ်တစ်ဦး လေးစားမှု၊ တန်းတူရည်တူဆက်ဆံမှုတို့ဖြင့် အကောင်အထည်ဖော်ဆောင်ရွက်သွားကြရန် တိုက်တွန်းပါကြောင်း။



## နိုင်ငံတော်သမ္မတ ဦးသိန်းစိန် (၇-၉-၂၀၁၂) ရက်နေ့ တိုင်းဒေသကြီးနှင့်ပြည်နယ်များမှ တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးများအား တွေ့ဆုံပွဲအခမ်းအနား အမှာစကားကောက်နုတ်ချက်

- ❒ တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးများသည် သက်ဆိုင်ရာ တိုင်းဒေသကြီးနှင့် ပြည်နယ်များအတွင်းရှိ သက်ဆိုင်ရာလူမျိုးစုများ၏ ကိုယ်စားလှယ်များဖြစ်သည်နှင့်အညီ မိမိတို့လူမျိုးစုများ၏ အရေးအရာကိစ္စများကို တာဝန်ယူဆောင်ရွက်ပေးရန် တာဝန်ရှိသူများဖြစ်ကြပါကြောင်း။

- ❒ နယ်စပ်ဒေသများ၌ လူမှုစီးပွားဖွံ့ဖြိုးတိုးတက်ရေးအတွက် ပထမဦးဆုံးလိုအပ်ချက်မှာ တည်ငြိမ်အေးချမ်းရေးနှင့် တရားဥပဒေစိုးမိုးရေးဖြစ်ကြောင်း၊ သို့မှသာ စိုက်ပျိုးရေး၊ မွေးမြူရေး၊ ပညာရေး၊ ကျန်းမာရေး စသည်များကို ထိထိရောက်ရောက်ကူညီပေးနိုင်မည်ဖြစ်ကြောင်း၊ ယခုအခါ ကိုယ့်ဒေသကိုယ် ဖွံ့ဖြိုးအောင် ဝန်ကြီးများကိုယ်တိုင်က တာဝန်ယူပြီး အပြိုင်အဆိုင်လုပ်ကြရမည်ဖြစ်ကြောင်း၊ လိုအပ်ချက်များကို အထက်ကဖြည့်ဆည်းပေးနိုင်သည်များ ဖြည့်ဆည်းပေးမည်ဖြစ်ကြောင်း။

- ❒ ယနေ့ မိမိတို့အစိုးရ၏ ရည်မှန်းချက်သည် ပြည်သူအများစု၏ ဆန္ဒဖြစ်သော တိုင်းပြည်တည်ငြိမ်အေးချမ်းရေးနှင့် လူမှုစီးပွားဖွံ့ဖြိုးတိုးတက်ရေးကို အောင်မြင်အောင် အကောင်အထည်ဖော်ဆောင်ရွက်ရန်ဖြစ်ကြောင်း၊ ထို့ကြောင့် တိုင်းပြည်တည်ငြိမ်အေးချမ်းရေးအတွက် ပြည်တွင်းနိုင်ငံရေးတည်ငြိမ်အောင်၊ ပြည်ပဖိအားတွေလျော့ပါးသွားအောင်၊ စီးပွားရေးပိတ်ဆို့မှုများ ရုပ်သိမ်းပေးအောင်၊ ပြည်တွင်းငြိမ်းချမ်းရေးရရှိအောင်ဆောင်ရွက်ရင်း လူမှုစီးပွားဖွံ့ဖြိုးတိုးတက်ရေးအတွက် ကျေးလက်ဒေသဖွံ့ဖြိုးတိုးတက်ရေးနှင့် ဆင်းရဲနွမ်းပါးမှုလျှော့ချရေးလုပ်ငန်း၊ လယ်ယာကဏ္ဍပြုပြင်ပြောင်းလဲရေးလုပ်ငန်း၊ အလုပ်

အကိုင်အခွင့်အလမ်းများရရှိရေးအတွက် ပြည်ပအရင်းအနှီးများဖိတ်ခေါ်ပြီး မိမိတို့ပြည်သူများ အကျိုးရှိစေမည့် စက်မှုလုပ်ငန်းများ၊ စက်မှုဇုန်များထူထောင်နိုင်ရန် ကြိုးပမ်းဆောင်ရွက်နေကြောင်း။

❒ အစိုးရ၏ရည်မှန်းချက်များအောင်မြင်အောင် တိုင်းရင်းသားလူမျိုးရေးရာ ဝန်ကြီးများကလည်း မိမိတို့လူမျိုးစုများနှင့်အတူ ဝိုင်းဝန်းပူးပေါင်းဆောင်ရွက်ကြရန် တိုက်တွန်းပါကြောင်း။

❒ တိုင်းရင်းသားလူမျိုးရေးရာ ဝန်ကြီးများအနေဖြင့် သက်ဆိုင်ရာတိုင်းဒေသကြီးနှင့် ပြည်နယ်အစိုးရအဖွဲ့၏ အစည်းအဝေးများတွင် ဆွေးနွေးစရာရှိပါက တင်ပြ၍ အစည်းအဝေးသို့တက်ရောက်နိုင်ပါကြောင်း၊ ထို့အတူ သက်ဆိုင်ရာတိုင်းဒေသကြီးနှင့် ပြည်နယ်အစိုးရအဖွဲ့က တိုင်းရင်းသားရေးရာကိစ္စရပ်များနှင့်ပတ်သက်၍ ဆွေးနွေးညှိနှိုင်းရန်ရှိသဖြင့် အစည်းအဝေးဖိတ်ကြားပါကလည်း တက်ရောက်ရမည်ဖြစ်ပါကြောင်း၊ မိမိအနေဖြင့် တိုင်းရင်းသားရေးရာဝန်ကြီးများနှင့် တစ်နှစ်လျှင်နှစ်ကြိမ် တွေ့ဆုံနိုင်အောင် ကြိုးစားမည်ဖြစ်ပါကြောင်း။

❒ ငြိမ်းချမ်းရေးလုပ်ငန်းစဉ်များနှင့်ပတ်သက်၍ နေရာတော်တော်များများတွင် ပစ်ခတ်မှုများ မရှိသလောက် အေးချမ်းသွားပြီဖြစ်ပါကြောင်း၊ သို့ဖြစ်၍ လုံခြုံမှုရှိလာပြီဟု ဆိုရမည်ဖြစ်ကြောင်း၊ လုံခြုံမှုရှိလာသဖြင့် မိမိတို့၏ အသက်မွေးဝမ်းကျောင်းအလုပ်များအား စိတ်ချလက်ချလုပ်ကိုင်နိုင်ပြီဖြစ်ပါကြောင်း၊ ငြိမ်းချမ်းရေး တည်ဆောက်ရာတွင် ကျန်သည့်အဖွဲ့များနှင့် အထိုက်အလျောက် အောင်မြင်မှုများရရှိနေပြီဖြစ်ပါကြောင်း၊ (KIO/KIA) ငြိမ်းချမ်းရေးတည်ဆောက်နိုင်ပြီဆိုပါက ငြိမ်းချမ်းရေးတည်ဆောက်မှုလုပ်ငန်းစဉ်အများစု အောင်မြင်မှုရပြီဟု ဆိုရမည်ဖြစ်ပါကြောင်း၊ သို့သော်လည်း ရာနှုန်းပြည့်



အောင်မြင်ရန်အတွက် အချိန်ယူ၍ ဆွေးနွေးဆောင်ရွက်ကြရမည်ဖြစ်ပါကြောင်း၊ ဦးစွာ အပစ်အခတ်ရပ်စဲရန် ဆောင်ရွက်ရမည်ဖြစ်ပါကြောင်း၊ အပစ်အခတ်ရပ်စဲပြီး နိုင်ငံရေးဆွေးနွေးမှုဆောင်ရွက်ရန်မှာမူ တစ်နေရာနှင့်တစ်နေရာ၊ လူမျိုးစုတစ်စုနှင့်တစ်စု လက်နက်ကိုင်အဖွဲ့အစည်း တစ်ခုနှင့်တစ်ခု မတူညီကွဲပြားသောအချက်များရှိသဖြင့် အချိန်ယူဆွေးနွေးပြီး ညှိနှိုင်းဆောင်ရွက်ကြရမည်ဖြစ်ပါကြောင်း၊ ပြီးလျှင် နောက်ဆုံးအဆင့်အနေဖြင့် လွှတ်တော်တွင် ဆွေးနွေးဆုံးဖြတ်ကြမည်ဖြစ်ပါကြောင်း၊ လက်တလောတွင် အဆင့်နှစ်ဆင့်ဖြင့်ဆောင်ရွက်နေပါကြောင်း၊ ပထမအဆင့်တွင် သက်ဆိုင်ရာတိုင်းဒေသကြီး၊ ပြည်နယ်အဆင့်ဖြစ်ပါကြောင်း၊ ထိုသို့ တိုင်းဒေသကြီး၊ ပြည်နယ်အဆင့် ဆွေးနွေးရာတွင် တိုင်းရင်းသားရေးရာဝန်ကြီးများအပါအဝင် တိုင်းရင်းသားလူမျိုးအားလုံး ဝိုင်းဝန်းဆောင်ရွက်ပါက ပိုမိုအဆင်ပြေ ချောမွေ့မည်ဖြစ်ပါကြောင်း၊ ဝန်ကြီးများအနေဖြင့် မိမိတို့အစိုးရအဖွဲ့နှင့်အတူ လက်ရည်တစ်ပြင်တည်း လက်တွဲဆောင်ရွက်ကြရန် တိုက်တွန်းလိုပါကြောင်း။

## (၁၉-၁၁-၂၀၁၂) ရက်နေ့ မြန်မာနိုင်ငံတွင်ရောက်ရှိနေသည့် အမေရိကန်ပြည်ထောင်စု သမ္မတ မစ္စတာ ဘားရက်အိုဘားမားနှင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် သမ္မတ ဦးသိန်းစိန် တွေ့ဆုံရာတွင် ပြောကြားသည့် မိန့်ခွန်းကောက်နုတ်ချက်

❒ မြန်မာနိုင်ငံနှင့် အမေရိကန်ပြည်ထောင်စုတို့သည် လွတ်လပ်ရေးမရခင် ၁၉၄၇ ခုနှစ်ကတည်းက သံတမန်ဆက်သွယ်ဆောင်ရွက်ခဲ့ကြပါကြောင်း၊ ဟိုစဉ်ကတည်းက ရင်းနှီးချစ်ခင်စွာ ဆက်ဆံလာခဲ့ကြသည့် နိုင်ငံများလည်း ဖြစ်ပါကြောင်း။

❒ လွန်ခဲ့သည့် အနှစ် ၂၀ ကျော်ကာလတွင် နှစ်နိုင်ငံဆက်ဆံရေးမှာ အကြောင်းကြောင်းကြောင့် အခက်အခဲများ ကြုံတွေ့ခဲ့ရပါကြောင်း၊ သို့သော် မစ္စတာ အိုဘားမား သမ္မတဖြစ်လာခဲ့ပြီးသည့်နောက်ပိုင်းတွင် သမ္မတကြီး၏ အမြော်အမြင်ရှိမှု၊ နိုင်ငံခြားရေးဝန်ကြီး မစ္စစ် ကလင်တန်၏ ကြိုးပမ်းဆောင်ရွက်ပေးမှု၊ အမေရိကန်သံအမတ်ကြီးနှင့် နိုင်ငံခြားရေးဝန်ကြီးဌာနက ဝန်ထမ်းများ၏ ကြိုးစားမှုများအားလုံးကို ကျေးဇူးတင်ရှိပါကြောင်း။

❒ အမေရိကန်သမ္မတကြီး သုံးစွဲပြောဆိုလေ့ရှိသည့်စကားအတိုင်း မိမိတို့ကလည်း Move Forward ဟူ၍ ရှေ့သို့ဆက်လက်ကြိုးပမ်းသွားမည်ဖြစ်ပါကြောင်း။



## (၁၉-၁၁-၂၀၁၂) ရက်နေ့ ကမ္ဘောဒီးယားနိုင်ငံ ဖနောင်ပင်မြို့ Peace Palace တတိယထပ် Champa Room ၌ ကျင်းပသည့် (၁၅) ကြိမ်မြောက် အာဆီယံ-တရုတ် ထိပ်သီးအစည်းအဝေးတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် သမ္မတ ဦးသိန်းစိန် ပြောကြားသည့် မိန့်ခွန်းကောက်နုတ်ချက်

❒ မြန်မာနိုင်ငံအနေဖြင့် ၁၉၉၇ ခုနှစ်က ဒေသဆိုင်ရာအဖွဲ့အစည်းအဖြစ် ဝင်ရောက်စဉ်ကပင် အာဆီယံ-တရုတ် ဆက်ဆံရေးအား တိုးမြှင့်ရေးတွင် နိုင်ငံအများနှင့် လက်တွဲလုပ်ကိုင်ခဲ့သကဲ့သို့ အစဉ်တစိုက် တရုတ်နိုင်ငံအား ထောက်ခံခဲ့ပါကြောင်း၊ အာဆီယံအသိုက်အဝန်းတည်ထောင်မှုသည် အာဆီယံနှင့် တရုတ်ပြည်သူ့သမ္မတနိုင်ငံ၏ အနာဂတ်မျိုးဆက်နှင့် ပြည်သူလူထုကို အကျိုးကျေးဇူးပြုမည်ဖြစ်ပါကြောင်း၊ ထို့အပြင် တရုတ်နိုင်ငံနှင့်နီးကပ်သည့် ဆက်ဆံရေးသည် ဒေသတွင်းနှင့် တစ်ကမ္ဘာလုံး၏ ငြိမ်းချမ်းရေးနှင့် တည်ငြိမ်ရေးနှင့် ဖွံ့ဖြိုးတိုးတက်ရေးတို့အတွက် အထောက်အကူပြုမည်ဖြစ်ပါကြောင်း။

❒ မိမိတို့အနေဖြင့် အာဆီယံနှင့် တရုတ်ကုန်သွယ်ရေး၊ ရင်းနှီးမြှုပ်နှံမှုအပါအဝင် စီးပွားရေးပူးပေါင်းဆောင်ရွက်မှုများနှင့် မဲခေါင်ဒေသ နိုင်ငံများအကြား တောင်နှင့်မြောက် စီးပွားရေးစင်္ကြံ ဖွံ့ဖြိုးတိုးတက်ရေး အရှိန်တိုးမြှင့်ရေးကို ဆက်လက်ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း၊ ယင်းမျက်နှာစာများသည် အာဆီယံပေါင်းစပ်ဆက်သွယ်ရေး မဟာစီမံကိန်းအောင်မြင်ရေးတွင် တရုတ်နိုင်ငံ၏ အလွန်အရေးပါသည့် အခန်းကဏ္ဍကို ဖော်ညွှန်းနေပါကြောင်း၊ မိမိတို့အနေဖြင့် အစိုးရနှင့် ပုဂ္ဂလိက မိတ်ဖက်ပြုပြီး မဟာစီမံချက် အကောင်အထည်ဖော်ရန် တိုးမြှင့်ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း။

- နန်နင်းမြို့တွင်ကျင်းပသည့် နဝမအကြိမ်မြောက် တရုတ်-အာဆီယံကုန်စည်ပြပွဲတွင် မြန်မာနိုင်ငံအနေဖြင့် ဂုဏ်ထူးဆောင်နိုင်ငံအဖြစ် တာဝန်ယူခဲ့သည်ကို ဂုဏ်ယူမိပါကြောင်း၊ နန်နင်းမြို့တွင် မိမိတို့အနေဖြင့် ၂၀၁၅ ခုနှစ်တွင် အာဆီယံ-တရုတ် ကုန်သွယ်ရေးရည်မှန်းချက်များ အောင်မြင်ရေးအတွက် ချမှတ်ထားသည့် မိမိတို့၏ ကတိကဝတ်များကို ထပ်လောင်းအတည်ပြုခဲ့ပါကြောင်း။



## နိုင်ငံတော်သမ္မတ ဦးသိန်းစိန် (၂၀-၁၁-၂၀၁၂) ကမ္ဘောဒီးယားနိုင်ငံ ဖနောင်းပင်မြို့ရှိ Peace Palace တတိယထပ် Champa Room ၌ ကျင်းပသည့် စတုတ္ထအကြိမ်မြောက် အာဆီယံ-အမေရိကန် ခေါင်းဆောင်များ ထိပ်သီးအစည်းအဝေးတွင် ပြောကြားသော မိန့်ခွန်းကောက်နုတ်ချက်

- အာဆီယံ-အမေရိကန်ဆက်ဆံရေးသည် သမ္မတ အိုဘားမားလက်ထက်တွင် သိသာထင်ရှားစွာ တိုးတက်လာသည်မှာ အငြင်းပွားစရာမရှိပါကြောင်း၊ ၂၀၀၉ ခုနှစ်မှစ၍ အာဆီယံ-အမေရိကန်ခေါင်းဆောင်များအစည်းအဝေးကို နှစ်စဉ်စဉ်ဆက်မပြတ် ကျင်းပနိုင်ခဲ့ပြီး အာဆီယံနှင့် အမေရိကန်ပြည်ထောင်စု၏ ဆက်ဆံရေးသည် တစ်နှစ်ထက်တစ်နှစ် တိုးတက်လာခဲ့ပါကြောင်း၊ အာဆီယံနှင့် အမေရိကန်အကြားဆက်ဆံရေး တိုးတက်နိုင်အောင် လုပ်ငန်းအစီအစဉ်များ ချမှတ်ဆောင်ရွက်နိုင်ခဲ့ပြီး အာဆီယံ-အမေရိကန် ထင်ပေါ်ကျော်ကြားသူများအဖွဲ့ကို ထူထောင်နိုင်ခဲ့ပါကြောင်း၊ ၎င်းထင်ပေါ်ကျော်ကြားသူများသည် အနာဂတ်ကောင်းမွန်သော အာဆီယံ-အမေရိကန်ဆွေးနွေးဖက် ဆက်ဆံရေးသို့ ဦးတည်သည့်အရေးကြီးသောအချက်များကို ဖော်ထုတ်နိုင်ခဲ့ကြပါကြောင်း။
- ဇူလိုင်လ ဆီရမ်ရိတွင် ကျင်းပခဲ့သည့် အာဆီယံ-အမေရိကန် စီးပွားရေးဖိုရမ်သည် နှစ်ဖက်ကုန်သွယ်ရေးနှင့် ရင်းနှီးမြှုပ်နှံမှုကို တိုးမြှင့်စေမည့် အခွင့်အရေးတစ်ရပ်ဖြစ်ခဲ့ပါကြောင်း။
- အာဆီယံ-အမေရိကန်ပြည်ထောင်စုဆက်ဆံရေးကို မဟာဗျူဟာမြောက်ဆက်ဆံရေးအဆင့်သို့ မြှင့်တင်ရန် ဆုံးဖြတ်ထားကြပါကြောင်း၊ ညှိနှိုင်းရေးတာဝန်ယူထားသည့် မြန်မာနိုင်ငံအနေဖြင့် အာဆီယံ-အမေရိကန်ဆက်ဆံရေးပိုမိုတိုးမြှင့်ခိုင်မာရေးအတွက် ဆောင်ရွက်သွားမည်ဟု ကတိကဝတ်ပြုပါကြောင်း။

❒ အမေရိကန်ပြည်ထောင်စုအနေဖြင့် မြန်မာနိုင်ငံအပေါ် အပြုသဘောဆောင်သော ဆောင်ရွက်ချက်များကို ကြိုဆိုပါကြောင်း၊ အမေရိကန်ပြည်ထောင်စု၏ မူဝါဒအပြောင်းအလဲများသည် မြန်မာနိုင်ငံ ဒီမိုကရေစီသို့ ကူးပြောင်းမှု၊ လူ့အခွင့်အရေး မြှင့်တင်ဆောင်ရွက်မှုနှင့် ကာကွယ်မှု၊ လူမှုစီးပွားဖွံ့ဖြိုးတိုးတက်မှုနှင့် မြန်မာနိုင်ငံကို ကမ္ဘာ့စီးပွားရေးနှင့် ကမ္ဘာ့အသိုက်အဝန်းအတွင်း ပေါင်းစည်းရေးတို့တွင် များစွာအထောက်အကူပြုလိမ့်မည်ဟု ခိုင်မာစွာ ယုံကြည်ပါကြောင်း။

❒ မိမိတို့အစိုးရအနေဖြင့်လည်း ပြုပြင်ပြောင်းလဲမှုများကို ဆက်လက်ဆောင်ရွက်သွားမည်ဖြစ်ပြီး စစ်မှန်သော ပြည်သူကို ဗဟိုပြုသည့် အစိုးရဖြစ်အောင် မဆုတ်မနစ် ကြိုးပမ်းသွားမည်ဖြစ်ပါကြောင်းကို ထပ်လောင်းအတည်ပြုပြောကြားလိုပါကြောင်း။



## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် သမ္မတ ဦးသိန်းစိန် (၂၂-၁၁-၂၀၁၂) နယူးဇီလန်နိုင်ငံဝန်ကြီးချုပ် မစ္စတာ ဂျွန်ကီးနှင့် နေပြည်တော်ရှိ နိုင်ငံတော်သမ္မတအိမ်တော် သံတမန်ဆောင် အစည်းအဝေးခန်းမ၌ ပြောကြားသည့် မိန့်ခွန်းကောက်နုတ်ချက်

❒ နိုင်ငံတည်ငြိမ်အေးချမ်းရေးအတွက် ပြုပြင်ပြောင်းလဲရေးလုပ်ငန်းများကို ဆောင်ရွက်ရာ၌ နိုင်ငံသားအားလုံး နိုင်ငံရေးပြုပြင်ပြောင်းလဲရေးလုပ်ငန်းစဉ်များတွင် ပါဝင်ဆောင်ရွက်နိုင်အောင် ဖော်ဆောင်နေသကဲ့သို့ ပြစ်ဒဏ်ကျခံနေရသူကိုလည်း ခြောက်ကြိမ်တိုင် လွတ်ငြိမ်းချမ်းသာခွင့်ပြုပေးခဲ့ပြီဖြစ်ကြောင်း။

❒ ဒီမိုကရေစီစနစ် ရှင်သန်ဖွံ့ဖြိုးရေးအတွက် စီးပွားရေးဖွံ့ဖြိုးတိုးတက်ရန် အရေးကြီးပါကြောင်း၊ မြန်မာနိုင်ငံတွင် အရင်းအနှီးနှင့် နည်းပညာနည်းပါးပြီး လူသားအရင်းအမြစ် ဖွံ့ဖြိုးရန်လည်း လေ့ကျင့်ပျိုးထောင်ရဦးမည်ဖြစ်ပါကြောင်း၊ ထို့ကြောင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုများကို မိမိတို့ဖိတ်ခေါ်နေပါကြောင်း၊ မြန်မာနိုင်ငံအနေဖြင့် ယနေ့အချိန်တွင် အရှေ့အနောက် မခွဲခြားဘဲ နိုင်ငံအားလုံးနှင့် ချစ်ကြည်ရင်းနှီးစွာ ဆက်ဆံဆောင်ရွက်နေသဖြင့် အနောက်နိုင်ငံများကလည်း စီးပွားရေးပိတ်ဆို့မှုများကို ဖြေလျှော့ပေးခဲ့ပြီဖြစ်ပါကြောင်း၊ မြန်မာနိုင်ငံတွင် သဘာဝအရင်းအမြစ်နှင့် ထွက်ကုန်သီးနှံများ များစွာထွက်ရှိပြီး လုပ်သားအင်အားလည်း လုံလောက်စွာ ရရှိနိုင်ပါကြောင်း၊ ထို့အတူ ပတ်ဝန်းကျင်တွင်လည်း ဈေးကွက်ကြီးမားစွာ ရှိနေသဖြင့် နယူးဇီလန်နိုင်ငံမှ စီးပွားရေးပညာရှင်များ လာရောက်လေ့လာကြည့်ရှုစေလိုပါကြောင်း၊ နည်းပညာအသုံးပြုမှုနည်းပါးပြီး အလုပ်အကိုင် အခွင့်အလမ်းများစွာ ပေးနိုင်သည့် စက်ရုံ၊ အလုပ်ရုံများ ဦးစားပေးဆောင်ရွက်စေလိုပါကြောင်း၊ Down Stream အနေဖြင့် ရော်ဘာအခြေခံစက်ရုံများ တည်ထောင်ရန် အခွင့်အလမ်းကောင်းများရှိနေပြီး ကျွန်းသစ်ကို တန်ဖိုးမြှင့်အချောထည်များထုတ်လုပ်၍ ပြည်ပတင်

ပို့နိုင်မည့် စက်ရုံ၊ အလုပ်ရုံများ တည်ထောင်ဆောင်ရွက်ပါက နှစ်ဦးနှစ်ဖက် အကျိုးဖြစ်ထွန်းမည်ဖြစ်ပါကြောင်း။

❒ နိုင်ငံဖွံ့ဖြိုးတိုးတက်ရန်နှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်ရန်တို့အတွက် လူ့စွမ်းအား အရင်းအမြစ် ဖွံ့ဖြိုးရန်၊ အရည်အသွေးရှိသူများဖြစ်အောင် လေ့ကျင့်ပျိုးထောင် ပေးရန် အရေးကြီးပါကြောင်း။



## နိုင်ငံတော်သမ္မတ ဦးသိန်းစိန် (၁၆-၁၂-၂၀၁၂) ထားဝယ်မြို့ မြို့တော်ခန်းမ၌ တိုင်းဒေသကြီး၊ ခရိုင်နှင့် မြို့နယ်အဆင့် ဌာနဆိုင်ရာ တာဝန်ရှိသူများအား တွေ့ဆုံပွဲတွင် ပြောကြားသည့် မိန့်ခွန်းကောက်နုတ်ချက်

❒ မိမိတို့အစိုးရ ရည်မှန်းချက်၊ ရည်ရွယ်ချက်နှင့် ပြုပြင်ပြောင်းလဲမှုလုပ်ငန်းစဉ် ကို အကျဉ်းချုံးပြောကြားလိုကြောင်း၊ မိမိတို့အစိုးရအဖွဲ့သည် နိုင်ငံတော်ကို ၂၀၁၁ ခုနှစ်၊ ဧပြီလ ၁ ရက်မှစတင်၍ ဒီမိုကရေစီစနစ်ဖြင့်သွားရန် စတင် ပြောင်းလဲခဲ့ကြောင်း၊ ၂၀၀၈ ခုနှစ် ဖွဲ့စည်းပုံဥပဒေသည်လည်း ပထမအကြိမ် လွှတ်တော်အစည်းအဝေးကျင်းပခြင်းဖြင့် အတည်ဖြစ်လာခဲ့ကြောင်း၊ ဒီမိုကရေစီ စနစ်ကို ကျင့်သုံးရာတွင် ခက်မသုံးဖြာဖြစ်သည့် ဥပဒေပြုရေးမဏ္ဍိုင်၊ အုပ်ချုပ် ရေးမဏ္ဍိုင်နှင့် တရားစီရင်ရေးမဏ္ဍိုင်တို့ဖြင့် အကောင်အထည်ဖော်ဆောင်ရွက် နေပါကြောင်း။

❒ မိမိတို့နိုင်ငံတွင် အခြေခံသဘာဝ သယံဇာတများ မည်မျှပင်ပေါကြွယ်ဝ သော်လည်း ပြည်သူများအကျိုး လုပ်ဆောင်ပေးနိုင်သည့် စွမ်းရည်ရှိသည့် လူ့စွမ်းအားအရင်းအမြစ် လိုအပ်ပါကြောင်း၊ လူသားစွမ်းရည်တိုးတက်လာ အောင် ပညာရေးကသာ လုပ်ဆောင်နိုင်ကြောင်း၊ နိုင်ငံတော်၏တာဝန်ကို ပခုံးပြောင်းတာဝန်ယူရန် သယံဇာတများကို အကျိုးရှိရှိ အသုံးချရန်မှာ လူငယ်များရဲ့တာဝန်ဖြစ်ကြောင်း၊ အရင်းအနှီး၊ နည်းပညာနှင့် လူသားစွမ်းရည် မွေးထုတ်ရန်အတွက် ပြည်ပရင်းနှီးမြှုပ်နှံမှုများ ဖိတ်ခေါ်ရပါကြောင်း၊ နိုင်ငံခြား သားများအတွက် မိမိတို့နိုင်ငံရှိ သဘာဝသယံဇာတများသည် မက်မောစရာ ဖြစ်နေပါကြောင်း၊ ပြည်ပရင်းနှီးမြှုပ်နှံမှုများ လုပ်ဆောင်ရာတွင် စည်းကမ်းမရှိ ဘဲ လုပ်ကိုင်လျှင် ကောင်းကျိုးထက် ဆိုးကျိုးကို ကြုံတွေ့နိုင်ကြောင်း၊ သို့ဖြစ်၍ မရှိမဖြစ်လိုအပ်သည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ (FDI Law)ကို ရေးဆွဲပြီး လွှတ်တော်မှာ ပညာရှင်များပါဝင်၍ ဝိုင်းဝန်းဆွေးနွေးပြီး အတည်ပြုနိုင်ခဲ့ခြင်း ဖြစ်ကြောင်း။

❒ ယခုအခါ အာဆီယံဒေသတွင်းသာမက နိုင်ငံတကာနယ်ပယ်၌ပါ ထောက်ခံ မှုများရရှိနေကြောင်း၊ နိုင်ငံတကာနှင့် ဆက်ဆံရေးကောင်းမွန်ရေးကို သာကေ ပြုရလျှင် အမေရိကန်ပြည်ထောင်စုသမ္မတ မစ္စတာအိုဘားမား မိမိတို့နိုင်ငံသို့

လာရောက်ခဲ့ခြင်းပင်ဖြစ်ကြောင်း၊ အမေရိကန်ပြည်ထောင်စုအနေဖြင့် တတ်နိုင်သလောက် ပိတ်ဆို့မှုများ လျှော့ချပေးခဲ့ကြောင်း၊ ဥရောပသမဂ္ဂ (EU) နှင့် အဆင်ပြေအောင် ဆက်ဆံနိုင်ခြင်းဖြင့် EU ကလည်း ပြေလျော့မှုများ လုပ်ပေးပြီး ပို့ကုန်များကို လက်ခံလာခဲ့ကြောင်း၊ ဖွံ့ဖြိုးဆဲနိုင်ငံများကို အနောက်နိုင်ငံများကပေးသည့် ပို့ကုန်ဆိုင်ရာ အထွေထွေအကျိုးခံစားခွင့် (GSP = General Special Preference) ရရှိအောင် ကြိုးပမ်းလုပ်ဆောင်လျက်ရှိကြောင်း။

❒ နိုင်ငံအကျိုးရမည်ဆိုလျှင် လုပ်ဆောင်သွားမည်သာဖြစ်ပါကြောင်း၊ တာဝန်ရှိသူများအနေဖြင့်လည်း မကြာမီ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုများ ဝင်လာတော့မည်ဖြစ်၍ (Town Plan, City Plan) များ ကြိုတင်လုပ်ထားရန်လိုအပ်ပါကြောင်း။

❒ မိမိတို့နိုင်ငံရဲ့ လူဦးရေ ၇၀ ရာခိုင်နှုန်းမှာ ကျေးလက်ဒေသ၌ နေထိုင်ကြကြောင်း၊ အိမ်နီးချင်းနိုင်ငံများနှင့်နှိုင်းယှဉ်လျှင် ဆင်းရဲနွမ်းပါးမှုနှုန်း မြင့်မားလျက်ရှိကြောင်း၊ ကုလသမဂ္ဂရဲ့ ထောင်စုနှစ်ရည်မှန်းချက်အရ ၂၀၀၅ ခုနှစ်တွင် ဆင်းရဲနွမ်းပါးမှု ၂၆ ရာခိုင်နှုန်းမှ ၁၆ ရာခိုင်နှုန်းသို့ လျော့ကျအောင် လုပ်ရန်လိုကြောင်း၊ ဆင်းရဲနွမ်းပါးမှု ကျဆင်းရေး လုပ်ငန်းစဉ် (၈)ရပ် ချမှတ်ဖေါ်ဆောင်လျက်ရှိကြောင်း၊ တနင်္သာရီတိုင်းဒေသကြီးအတွင်း ကျေးရွာပေါင်း ၁၂၀၀ ကျော်ရှိပြီး တစ်နိုင်ငံလုံးတွင် ကျေးရွာပေါင်း ၆၀၀၀၀ ကျော်ရှိရာ ကျေးလက်ဒေသဖွံ့ဖြိုးတိုးတက်မှ တိုင်းပြည်ဖွံ့ဖြိုးတိုးတက်မှာဖြစ်ကြောင်း။



## (၂၆-၁၂-၂၀၁၂) ရက်နေ့ အစိုးရဌာနအဖွဲ့အစည်းများ၏ စီမံအုပ်ချုပ်မှုစနစ် တိုးတက်ကောင်းမွန်အောင် ပြုပြင်ပြောင်းလဲဆောင်ရွက်ရေးနှင့်စပ်လျဉ်း၍ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် သမ္မတ ဦးသိန်းစိန် ပြောကြားသည့် မိန့်ခွန်းကောက်နုတ်ချက်

❒ မိမိတို့အစိုးရအနေဖြင့် နိုင်ငံအုပ်ချုပ်ရေးတာဝန်ယူပြီး နိုင်ငံအကျိုး၊ ပြည်သူအကျိုး ထမ်းဆောင်ခဲ့သည်မှာ တစ်နှစ်နှင့် ကိုးလခန့်ရှိပြီဖြစ်ပါကြောင်း၊ ခေတ်သစ် စနစ်သစ်ထူထောင်တည်ဆောက်ရန်အတွက် ဒီမိုကရေစီအသွင် ကူးပြောင်းရေးကာလတွင် ပြည်ထောင်စုအစိုးရနှင့် တိုင်းဒေသကြီး၊ ပြည်နယ်အစိုးရအဆင့်ဆင့် ဖွဲ့စည်းမှုများ စတင်ဆောင်ရွက်ခဲ့ပြီး ခေတ်စနစ်သစ်အတွက် လိုက်လျောညီထွေရှိမည့် ဥပဒေ၊ စည်းမျဉ်း၊ လုပ်ထုံးလုပ်နည်းများ၊ ပြင်ဆင်သင့်သည်များ၊ အသစ်ရေးဆွဲသင့်သည်များ ရေးဆွဲဆောင်ရွက်ခဲ့ပါကြောင်း။

❒ ဒီမိုကရေစီအသွင်ကူးပြောင်းမှုကို ညင်သာချောမွေ့အောင်မြင်အောင် ဝိုင်းဝန်းကြိုးပမ်းဆောင်ရွက်ပေးကြသော လွှတ်တော်၊ အစိုးရ၊ တရားလွှတ်တော်၊ တပ်မတော်နှင့် ပြည်သူတစ်ရပ်လုံးကိုရော နိုင်ငံတကာနှင့် ပြည်တွင်းပြည်ပမိတ်ဖက်အဖွဲ့အစည်းအသီးသီးကိုပါ အထူးကျေးဇူးတင်ပါကြောင်း။

❒ တစ်နည်းအားဖြင့် နိုင်ငံရေးပြုပြင်ပြောင်းလဲမှုတာဝန်ကြီးကို ပထမအဆင့်ပြုပြင်ပြောင်းလဲရေးလုပ်ငန်းစဉ်အဖြစ် စတင်ဆောင်ရွက်ခဲ့ပါကြောင်း။

❒ ကျန်ရှိသည့်လုပ်ငန်းများအောင်မြင်ရေးနှင့် မိမိတို့အစိုးရ ကြိုးပမ်းဆောင်ရွက်နေသည့် ဒီမိုကရေစီအသွင် ကူးပြောင်းရေး နိုင်ငံရေးပြုပြင်ပြောင်းလဲမှုနှင့် ငြိမ်းချမ်းရေးဖော်ဆောင်မှုများတွင် တိုင်းရင်းသားညီအစ်ကိုမောင်နှမအားလုံး၊

ပြည်သူတစ်ရပ်လုံး လက်တွဲပါဝင်ပူးပေါင်းပြီး ဆောင်ရွက်ပေးကြပါဟု နှိုးဆော်ပန်ကြားလိုပါကြောင်း။

- ❒ ပြည်သူများ၏ စားဝတ်နေရေး အလုပ်အကိုင်အခွင့်အလမ်းရရှိရေး၊ ပြည်သူ့ဘဝလုံခြုံမှုနှင့် လူမှုစီးပွားရေးတိုးတက်မှုများအတွက် ပြည်သူဗဟိုပြု လူမှုစီးပွားရေး ပြုပြင်ပြောင်းလဲမှုကို ပြုပြင်ပြောင်းလဲရေးဒုတိယအဆင့်အဖြစ် ဆောင်ရွက်ရန် မူဝါဒချမှတ်ပေးခဲ့ပြီးဖြစ်ပါကြောင်း။
- ❒ ကမ္ဘာ့စီးပွားရေးတိုးတက်မှုနှေးကွေးခြင်းနှင့် ဈေးကွက်ဝယ်လိုအားကျဆင်းနေခြင်း၊ မြန်မာနိုင်ငံအပေါ် စီးပွားရေးပိတ်ဆို့ထားမှု အပြီးတိုင်ရုပ်သိမ်းရန်လိုအပ်နေခြင်း၊ ကမ္ဘာ့ရာသီဥတုဖောက်ပြန်မှုကြောင့် သဘာဝဘေးအန္တရာယ်ခံစားရခြင်း စသည့်အခြေအနေများ၏ ရိုက်ခတ်မှုကြောင့် မြန်မာနိုင်ငံ၏ စီးပွားရေးတိုးတက်မှုနှေးကွေးနေသည့်အတွက် လက်ရှိအခြေအနေမှ ပြည်သူများ၏ လက်ရှိစီးပွားရေး သိသာထင်ရှားစွာ တိုးတက်အောင် ဝိုင်းဝန်းကြိုးပမ်းကြရန် တိုက်တွန်းနှိုးဆော်လိုပါကြောင်း။
- ❒ လက်တွေ့အကောင်အထည်ဖော်ဆောင်ရွက်မှု ထိရောက်အောင်မြင်ရေးအတွက် အစိုးရအုပ်ချုပ်မှုယန္တရား၏ စီမံလုပ်ကိုင်မှု ထိရောက်ထက်မြက်ရန် လိုအပ်ပါကြောင်း။
- ❒ ခေတ်စနစ်တစ်ရပ်ကို ပြုပြင်ပြောင်းလဲတိုးတက်အောင် ဆောင်ရွက်ရာတွင်လည်း ရှေးယခင် အတွေးအမြင်လုပ်နည်းအတိုင်း ဆောင်ရွက်၍မရတော့ဘဲ ဒီမိုကရေစီကျင့်စဉ်နှင့် လိုက်လျောညီထွေရှိမည့် နိုင်ငံရေးအမြင်၊ စီးပွားရေးအမြင်၊ အုပ်ချုပ်ရေးအမြင်၊ လူမှုရေးအမြင်များနှင့် ကျယ်ကျယ်ပြန့်ပြန့်တွေးခေါ်မြော်မြင်လုပ်ဆောင်ရမည်ဖြစ်ပါကြောင်း။



- ❒ ပြည်သူများက ရွေးချယ်တင်မြှောက်ထားသည့် မိမိတို့အစိုးရအဖွဲ့အစည်းအနေဖြင့်ရော၊ ပြည်သူများ၏ အခွန်ဘဏ္ဍာနှင့် ပြည်သူ့ဝန်ကို ထမ်းဆောင်နေကြသော နိုင်ငံ့ဝန်ထမ်းအားလုံးကပါ ကောင်းမွန်သောအုပ်ချုပ်မှုစနစ်ရှိသည့်၊ သန့်ရှင်းသည့်အစိုးရ (Good Governance, Clean Government) ဖြစ်အောင်ကြိုးပမ်းပြီး နိုင်ငံရေး၊ စီးပွားရေး၊ အုပ်ချုပ်ရေး၊ လူမှုရေးကိစ္စအဝဝ၌ ပြည်သူလူထုအတွက် ပြည်သူလူထုဗဟိုပြု ဖွံ့ဖြိုးတိုးတက်အောင် ဆောင်ရွက်ကြရန် မှာကြားတိုက်တွန်းခဲ့ပြီးဖြစ်ပါကြောင်း။
- ❒ အစိုးရဌာနအဖွဲ့အစည်းများ၏ စီမံအုပ်ချုပ်မှုစနစ် တိုးတက်ကောင်းမွန်အောင် ပြုပြင်ပြောင်းလဲရေးလုပ်ငန်းစဉ်ကို နိုင်ငံတော်ဖွံ့ဖြိုးတိုးတက်မှုအတွက် ပြုပြင်ပြောင်းလဲရေး မဟာဗျူဟာ တတိယအဆင့် လုပ်ငန်းအဖြစ် သတ်မှတ်အကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း။
- ❒ ပြည်သူဗဟိုပြု ဖွံ့ဖြိုးတိုးတက်ရေး မဟာဗျူဟာနှင့်အညီ ပြည်သူ့ဝန်ကို ဆောင်သော ပြည်သူ့ဝန်ထမ်းများဖြစ်အောင် ရပ်/ကျေးအုပ်ချုပ်ရေးပိုင်းမှ ပြည်ထောင်စုအဆင့်အထိ ပုဂ္ဂိုလ်ရေးပိုင်းဆိုင်ရာ အတွေးအမြင်၊ အမူအကျင့်၊ လုပ်ပုံလုပ်နည်းများ ပြောင်းလဲခြင်းလုပ်ဆောင်ရမည်ဖြစ်သကဲ့သို့ အစိုးရအဖွဲ့အစည်းယန္တရား၏ ဖွဲ့စည်းတည်ဆောက်ပုံပြောင်းလဲခြင်းကိုလည်း ဆောင်ရွက်ရမည်ဖြစ်ပါကြောင်း။
- ❒ တိုင်းဒေသကြီး/ပြည်နယ်အစိုးရများအနေဖြင့် ကော်မတီဖွဲ့စည်းမှုအဆင့်ဆင့် ခိုင်မာကောင်းမွန်အောင် ဆောင်ရွက်ကြရန်နှင့် ဆောင်ရွက်မှုကိစ္စများတွင် ဥပဒေနှင့်အညီဖြစ်ရေး၊ စီမံဆောင်ရွက်သွားကြရန် မှာကြားလိုပါကြောင်း။
- ❒ ပြည်ထောင်စုအစိုးရ ဝန်ကြီးဌာနများနှင့် တိုင်းဒေသကြီး/ပြည်နယ်အစိုးရအကြား ပေါင်းစပ်ညှိနှိုင်းမှု အားနည်းနေခြင်းနှင့်ပတ်သက်၍ ဖွဲ့စည်းပုံအခြေခံ

ဥပဒေနှင့်အညီ အုပ်ချုပ်ရေးအာဏာ ခွဲဝေအပ်နှင်းမှုကို ဆောင်ရွက်ရာ၌ ပြည်ထောင်စုဝန်ကြီးများက တာဝန်ယူဆောင်ရွက်ရမည့်လုပ်ငန်းများကို စနစ်တကျပိုင်းခြားသတ်မှတ်ခြင်းများကိုလည်း ပိုမိုထိရောက်မည့် လုပ်ထုံးလုပ်နည်းများ သတ်မှတ်ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း။

- ❐ အစိုးရဌာနအဖွဲ့အစည်း၏ စီမံအုပ်ချုပ်မှုစနစ် တိုးတက်ကောင်းမွန်အောင် ပြုပြင်ပြောင်းလဲမှု ဆောင်ရွက်ရေးလုပ်ငန်းစဉ်သည် ယနေ့ မိမိတို့ အကောင်အထည်ဖော်ဆောင်ရွက်နေသော နိုင်ငံရေးပြုပြင်ပြောင်းလဲမှုများ၊ ဒီမိုကရေစီအလေ့အကျင့်များ ရှင်သန်လာရေးအတွက် အဓိကအခန်းကဏ္ဍမှနေ၍ အကောင်အထည်ဖော်ဆောင်ရွက်ကြမည်ဖြစ်သည့်အတွက် ဌာနအသီးသီးတွင် ပါဝင်တာဝန်ထမ်းဆောင်နေသည့် ဝန်ထမ်းအသီးသီးက နိုင်ငံရေးစေတနာမှန်ကန်စွာနှင့် အကောင်အထည်ဖော် လုပ်ဆောင်နိုင်ကြရန် အလေးအနက်တိုက်တွန်းလိုပါကြောင်း။
- ❐ ယနေ့ အချိန်အခါသည် နိုင်ငံသားတစ်ဦးချင်းစီအနေဖြင့်လည်းကောင်း၊ အစိုးရအဖွဲ့အစည်းအသီးသီးအနေဖြင့်လည်းကောင်း၊ နိုင်ငံရေးပါတီအားလုံးအနေဖြင့်လည်းကောင်း ကျရာကဏ္ဍမှ စိတ်ရင်းစေတနာကောင်းဖြင့် လုပ်ဆောင်နိုင်မည်ဆိုလျှင် မိမိတို့ကြုံတွေ့နေရသော အခက်အခဲ စိန်ခေါ်မှုအားလုံးကို အောင်မြင်စွာ ကျော်လွှားနိုင်ပြီး ငြိမ်းချမ်းသာယာသည့် အနာဂတ်မြန်မာနိုင်ငံသစ်ကို မျှော်မှန်းနိုင်မည်ဖြစ်ပါကြောင်း။



## (၂၇-၁၂-၂၀၁၂) ရက်နေ့ တတိယအကြိမ် စီမံကိန်းကော်မရှင် အစည်းအဝေးတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် သမ္မတ ဦးသိန်းစိန် ပြောကြားသည့် မိန့်ခွန်းကောက်နုတ်ချက်

- ❐ နိုင်ငံတော်၏ ဒုတိယအဆင့် ပြုပြင်ပြောင်းလဲရေးလုပ်ငန်းစဉ် မဟာဗျူဟာဖြစ်သည့် ပြည်သူ့ဗဟိုပြုဖွံ့ဖြိုးမှု (People Centered Development) နည်းလမ်းနှင့် ချဉ်းကပ်အကောင်အထည်ဖော်ရာတွင် နိုင်ငံ၏ စီးပွားရေးနှင့် လူမှုရေးပြုပြင်ပြောင်းလဲရေးမူဘောင် (Paperwork for Economic and Social Reform FERS) ကို ရေးဆွဲပြီးဖြစ်သကဲ့သို့ နိုင်ငံ၏ ရေရှည်ဖွံ့ဖြိုးတိုးတက်ရေးအတွက် ကာလတို ငါးနှစ်စီမံကိန်းအပြင် ကာလရှည် နှစ် ၂၀ ကာလ ၂၀၁၁ မှ ၂၀၃၁ ထိ လွှမ်းခြုံသည့် အမျိုးသားဘက်စုံဖွံ့ဖြိုးတိုးတက်ရေးစီမံကိန်း (National Comprehensive Development Plan-NCDD) ၂၀၁၁-၂၀၃၁ ကို နှစ် ၂၀ စီမံကိန်းရေးချယ်လျက်ရှိပါကြောင်း၊ ထို့ပြင် ဂျပန်-အာဆီယံပေါင်းစည်းမှု ရန်ပုံငွေဖြင့် ဂျပန်-အာဆီယံ နိုင်ငံတကာပညာရှင်များ ပူးပေါင်းပါဝင်ဆောင်ရွက်သည့် မြန်မာ့ဘက်စုံဖွံ့ဖြိုးတိုးတက်ရေး မျှော်မှန်းချက် (Myanmar Comprehensive Development Vision-MCDV) ၂၀၁၁-၂၀၃၆ ကိုတစ်ပြိုင်တည်း ရေးဆွဲနေသည်ဖြစ်ရာ နိုင်ငံတော်၏ ဘက်စုံလူမှုစီးပွားဖွံ့ဖြိုးတိုးတက်ရေးခိုင်မာသည့် အစီအစဉ်များကို ရေးဆွဲအကောင်အထည်ဖော်သည့်လုပ်ငန်းစဉ်လည်း စနစ်တကျ ဆောင်ရွက်နေသောကာလဖြစ်ကြောင်း။
- ❐ တိုင်းဒေသကြီး/ပြည်နယ်စီမံကိန်းများ ရေးဆွဲရာတွင် တိုးတက်မှု (သို့) ညီမျှမှု (Growth Vs Equality) စုစည်းတိုးတက်မှု (သို့) ပျံ့နှံ့တိုးတက်မှု (Concertration Vs Dispersion)၊ ပုဂ္ဂလိကကဏ္ဍ ဦးဆောင်မှုနှင့် အများပိုင်/နိုင်ငံပိုင်ကဏ္ဍ ဦးဆောင်မှု (Private Sector Vs Public Sector Led)၊ ငွေကြေးအကူအညီဖြင့် အလုပ်အကိုင်ဖန်တီးပေးခြင်း (သို့) လုပ်သားများ

ရွှေ့ပြောင်းမှု၊ စီးထွက်မှုကိုလက်ခံခြင်း (Capital Aid Vs Migration) စသည့် မူဝါဒရွေးချယ်မှုများ ပြည်သူဗဟိုပြုဖွံ့ဖြိုးတိုးတက်ရေးမူဝါဒ (People Centered Policies) အမြင်ဖြင့် စဉ်းစားဆုံးဖြတ်ရမည်ဖြစ်ပါကြောင်း။

- ❐ နိုင်ငံတော်၏ စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် ကုန်ထုတ်လုပ်မှုတိုးတက်စရာ အလုပ်အကိုင် အခွင့်အလမ်းများ ပေါများရေး လွတ်လပ်သောစျေးကွက်နှင့် စျေးနှုန်းများ တည်ငြိမ်ရေး၊ ပြည်ပကုန်သွယ်မှု အဆင်ပြေချောမွေ့ရေးမူဝါဒ များချမှတ်ပြီးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ထို့ပြင် ပြည်ပအရင်းအနှီးများ စီးဝင်လာစေရန်နှင့် နည်းပညာအတတ်ပညာ (Technical Knowledge) များ ရရှိရေးကိုလည်း အထူးဂရုပြုဆောင်ရွက်ရမည်ဖြစ်ပါကြောင်း။
- ❐ ထိုသို့ ဆောင်ရွက်အကောင်အထည်ဖော်ကြသည့်နေရာတွင် ရရှိလာသော သဘာဝသယံဇာတ၊ လူ့စွမ်းအားအရင်းအမြစ်၊ ငွေပင်ငွေရင်း စသည့် စွမ်းအားစုများ (Natural , Human and Financial Resources) ကို အကောင်း ဆုံးပေါင်းစပ်သုံးစွဲနိုင်သူများက ဖွံ့ဖြိုးတိုးတက်ကြပြီး အကောင်းဆုံးအသုံးပြုခွင့် မရသေးသူများက ဖွံ့ဖြိုးမှုနောက်ကျနေခဲ့ခြင်းဖြစ်ပါတယ်။
- ❐ ၂၀၁၃-၂၀၁၄ ဘဏ္ဍာနှစ်တွင် ပွင့်လင်းထင်သာလာသော ကမ္ဘာ့အခြေအနေ နှင့်အညီ နိုင်ငံတကာ ဘဏ္ဍာရေးစျေးကွက်နှင့် ချိတ်ဆက်ဖွင့်ဟနိုင်ပြီဖြစ် သဖြင့် ဖွံ့ဖြိုးမှုအတွက် အရင်းတည်ဆောက်မှု (Development Financing Capital Fornation) ကို ဆောင်ရွက်လာနိုင်မည်ဖြစ်ပါကြောင်း၊ မိမိတို့လုပ်လို သော ဖွံ့ဖြိုးရေးလုပ်ငန်းများကို ပြည်တွင်းဘတ်ဂျက်ဇစ်မြစ်တစ်ခုထဲမှ မဟုတ်တော့ဘဲ ပြည်ပငွေရင်းဇစ်မြစ်များနှင့် တိုးချဲ့လုပ်ဆောင်နိုင်ကြပြီဖြစ်ရာ မိမိတို့ကဏ္ဍအလိုက်ရော၊ ဒေသအလိုက် စီမံကိန်းများကိုပါ မည်သည့်လုပ်ငန်း များကို မည်သည့်ဘတ်ဂျက်၊ မည်သည့်အထောက်အပံ့၊ မည်သည့်ချေးငွေဖြင့် လုပ်မည်ဆိုသည်ကို သေချာစဉ်းစား စိစစ်ရွေးချယ်ညှိနှိုင်းရန်လိုကြောင်း။



- ❐ ဤသို့ ဆောင်ရွက်ရန်အတွက်လည်း ၂၀၁၃ ခုနှစ်၊ ဇန်နဝါရီလ တတိယပတ် တွင် ပထမအကြိမ် မြန်မာနိုင်ငံဖွံ့ဖြိုးတိုးတက်မှု ပူးပေါင်းဆောင်ရွက်ရေးဖိုရမ် (First Myanmar Development Cooperation Forum) ကို နေပြည်တော်၌ ကျင်းပရန် စီစဉ်ထားပြီးဖြစ်သကဲ့သို့ ကမ္ဘာတစ်ဝန်းမှ ဖွံ့ဖြိုးမှုမိတ်ဖက်အဖွဲ့များ နှင့် နိုင်ငံတကာ အဖွဲ့အစည်းများ စုံညီစွာ တက်ရောက်ဆွေးနွေးပြီး ဖွံ့ဖြိုးရေး လုပ်ငန်းစဉ်များကို ဆွေးနွေးဆုံးဖြတ်ကာ ကာလတို၊ ကာလလတ်နှင့် ကာလ ရှည်ဖွံ့ဖြိုးရေး အစီအစဉ်များ၊ စီမံကိန်း၊ စီမံချက်များကို ညှိနှိုင်း၍ ဘဏ္ဍာငွေ စီမံချက်များကို ရေးဆွဲဆောင်ရွက်နိုင်ကြမည်ဖြစ်ပါကြောင်း။

## (၂၈-၁၂-၂၀၁၂) ရက်နေ့ ဒုတိယအကြိမ် နိုင်ငံခြားအကူအညီ အထောက်အပံ့ စီမံခန့်ခွဲရေး ဗဟိုကော်မတီအစည်းအဝေးတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် သမ္မတ ဦးသိန်းစိန် ပြောကြားသည့် မိန့်ခွန်းကောက်နုတ်ချက်

❒ အာရှနိုင်ငံများ၏ ဖွံ့ဖြိုးမှုအတွေ့အကြုံများအရလည်း ရရှိခဲ့သည့် အကူအညီ အထောက်အပံ့များကို ကောင်းမွန်စွာ အသုံးချခြင်းအားဖြင့် နိုင်ငံဖွံ့ဖြိုးတိုးတက်မှုအတွက်ရော၊ ဆင်းရဲနွမ်းပါးမှု လျှော့ချရေးအတွက်ပါ များစွာအထောက်အကူပြုစေနိုင်ခဲ့ပါကြောင်း၊ အကူအညီများကို ထိထိရောက်ရောက်သုံးစွဲပြီး ရလဒ်များကို ပိုမိုတိုးတက်ကောင်းမွန်စေခြင်းဖြင့် နိုင်ငံခြားအကူအညီ အထောက်အပံ့များကိုလည်း ပိုမိုတိုးတက်ရရှိနိုင်မည်ဖြစ်ပါကြောင်း၊ အစိုးရအနေဖြင့် မည်သည့်စီမံချက်အတွက် မည်သည့်နေရာမှ အကူအညီ၊ ချေးငွေကို မည်ကဲ့သို့ အသုံးချမည်ဆိုသည့် ဦးစားပေးစဉ်းစားမှုက အထူးအရေးကြီးသကဲ့သို့ အဆိုပါ အကူအညီများကို အကျိုးရှိရှိ အသုံးချနိုင်ရေးအတွက် စီမံခန့်ခွဲမှုများကို မည်သို့ ဖွဲ့စည်းဆောင်ရွက်မည်၊ လိုအပ်သည့် မဟာဗျူဟာများ၊ နည်းစနစ်များကို မည်သို့ပြင်ဆင်ထားရှိမည်ဆိုသည့် အစီအစဉ်များသည်လည်း အရေးကြီးလှပါကြောင်း။

❒ ထိရောက်သည့်ဖွံ့ဖြိုးမှု အကူအညီဟုဆိုရာတွင် အကူအညီ အထောက်အပံ့များ၊ အတိုးမဲ့ချေးငွေ၊ အတိုးနှုန်းသက်သာသည့်ချေးငွေ၊ နိုင်ငံခြားတိုက်ရိုက်ရင်းနှီးမြှုပ်နှံမှုများကို စနစ်တကျ စီမံခန့်ခွဲနိုင်ခြင်းဖြင့် ကောင်းမွန်သောရလဒ်နှင့် ပြယုဂ်ကြောင့် အကူအညီများ ပိုမိုစီးဝင်စေခြင်း၊ အလှူရှင်များ၏စိတ်ဆန္ဒ စေတနာပိုရှိစေခြင်း၊ ထိရောက်သည့်အကောင်အထည်ဖော်မှုများနှင့် မိမိတို့နိုင်ငံ၏ မျှော်မှန်းထားသော ရည်မှန်းချက်များ အောင်မြင်စေခြင်း၊ လူနေမှုဘဝအရည်အသွေး (Human Development) ဖြစ်ပေါ်စေခြင်းတို့ဖြစ်ပါကြောင်း။

❒ ထိရောက်သောဖွံ့ဖြိုးမှုအကူအညီဖြစ်ရန်ဆိုလျှင် ပဲရစ်ကြေညာချက်တွင် ဖော်ပြထားသည့်အတိုင်း သက်ဆိုင်ရာနိုင်ငံက Driver Sead ယူပြီး Project များကို ဦးဆောင်ရမည်ဖြစ်သည့်အတွက် မိမိတို့နိုင်ငံတွင် အကောင်အထည်ဖော်လိုသော စီမံချက်များကို အလှူရှင်နိုင်ငံများ၏ ရည်ရွယ်ချက်၊ စိတ်ဝင်စားမှုနယ်ပယ်၊ မူဘောင်နှင့် ကိုက်ညီမှုရှိအောင် ညှိနှိုင်းဆောင်ရွက်ကြမည်ဖြစ်ပါကြောင်း။

❒ အကူအညီရယူသည့် နိုင်ငံများ၏ အကောင်အထည်ဖော်ဆောင်ရွက်မည့် နယ်ပယ်ဧရိယာများသည် တစ်ခုတည်း၊ တစ်နေရာတည်းတွင် စုပြုံဆောင်ရွက်နေသည့် အနေအထားမျိုးမဖြစ်ပေါ်စေရန် မိတ်ဖက်အဖွဲ့အစည်းများအနေဖြင့် ညီညွတ်အောင် ဆောင်ရွက်ရန်လိုအပ်ပါကြောင်း၊ စီမံချက်တစ်ခုကို ပြီးလျှင်ပြီးရောဆိုသည့်အနေအထားမျိုးမဟုတ်ဘဲ စီမံချက်၏ရလဒ်များသည် လူ့အဖွဲ့အစည်းကို အကျိုးရှိစေရန် ညွှန်းကိန်းများဖြင့် တိုင်းတာရန်လိုအပ်ပါကြောင်း၊ ရလဒ်များကို စီမံခန့်ခွဲရာတွင် အပြန်အလှန်တာဝန်ယူမှုရှိရန် အသုံးပြုရန်ဖြစ်သကဲ့သို့ အကောင်အထည်ဖော်သည့်အစိုးရပိုင်း၊ အဖွဲ့အစည်းများအနေဖြင့်လည်း Projcet Owner အနေဖြင့် တာဝန်ယူမှု၊ တာဝန်ခံမှု အပြည့်ထားပြီး အကူအညီအထောက်အပံ့များကို ထိထိမိမိ အကျိုးရှိရှိ သုံးစွဲနိုင်ရေး ဆောင်ရွက်ကြရမည်ဖြစ်ပါကြောင်း၊ ဆောင်ရွက်ရာတွင် ပွင့်လင်းမြင်သာမှု၊ တာဝန်ခံမှု၊ ပြည်သူပူးပေါင်းပါဝင်မှုတို့ဖြင့် နိုင်ငံ၏ဖွံ့ဖြိုးမှုမဟာဗျူဟာဖြစ်သည့် "ပြည်သူဗဟိုပြု ဖွံ့ဖြိုးတိုးတက်ရေး"အကောင်အထည်ဖော်နိုင်အောင် ပွင့်ပွင့်လင်းလင်းဆွေးနွေးသွားကြရန် ပဏာမပြောကြားလိုပါကြောင်း။

- နိုင်ငံခြားထောက်ပံ့ငွေ (Grant) များကို လူ့စွမ်းအားအရင်းအမြစ် ဖွံ့ဖြိုးတိုးတက်ရေးလုပ်ငန်းများအတွက် ဦးစားပေးသုံးစွဲရန်ဖြစ်ကြောင်း၊ ချေးငွေနှင့်ပတ်သက်၍ ဒေသန္တရအဆင့် လုပ်ဆောင်ရမည့်စီမံကိန်းများနှင့် နိုင်ငံတော်အဆင့်လုပ်ဆောင်ရမည့် စီမံကိန်းများဟူ၍ ရွေးချယ်ပြီး လုပ်ဆောင်သွားရန်လိုအပ်ကြောင်း၊ အလျင်အမြန် အကျိုးအမြတ်ရရှိနိုင်သော ပြည်သူများတိုက်ရိုက်လက်တွေ့အကျိုးခံစားခွင့်ရရှိနိုင်မည့် စီမံကိန်းလုပ်ငန်းများကို ပထမဦးစားပေးလုပ်ဆောင်ရန်ဖြစ်ပြီး ရေရှည်အကျိုးစီးပွားရရှိမည့်လုပ်ငန်းများကို ဒုတိယဦးစားပေး စဉ်းစားဆောင်ရွက်ရန်ဖြစ်ကြောင်း၊ အများပြည်သူအတွက် အကျိုးသက်ရောက်နိုင်သည့် လုပ်ငန်းများကို ရဲရဲတင်းတင်း ရွေးချယ်ဆောင်ရွက်သွားရန်လိုကြောင်း၊ အသေးစားငွေကြေးလုပ်ငန်းများသည် အခြေခံလူတန်းစားများကို ထိရောက်အောင် ကူညီပေးနိုင်သည့်အတွက် အသေးစားငွေချေးလုပ်ငန်းဘဏ် (Microfinance Bank) ကို ထူထောင်သင့်ကြောင်း၊ ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုများကို ဖိတ်ခေါ်၍ လုပ်ဆောင်သကဲ့သို့ တစ်ဦးချင်းဆောင်ရွက်နိုင်စွမ်းမရှိသည့် လုပ်ငန်းများကို အများပိုင်အဖြစ် စုပေါင်းဆောင်ရွက်သွားကြမည်ဖြစ်ကြောင်း။



## ပြည်ထောင်စုမြန်မာနိုင်ငံတော် ဖွဲ့စည်းပုံအခြေခံဥပဒေကို အတည်ပြုပြဋ္ဌာန်း

၁။ ပြည်ထောင်စုမြန်မာနိုင်ငံတော် ပြည်လုံးကျွတ်ဆန္ဒခံယူပွဲ ကျင်းပရေးကော်မရှင်သည် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် ဖွဲ့စည်းပုံ အခြေခံဥပဒေမူကြမ်းအတည်ပြုရေးနှင့်စပ်လျဉ်း၍ ပြည်သူတို့၏ သဘောထားတောင်းခံသည့် ပြည်လုံးကျွတ်ဆန္ဒခံယူပွဲများကို ၂၀၀၈ ခုနှစ်၊ မေလ (၁၀)ရက်နှင့် (၂၄)ရက်နေ့တို့တွင် အောင်မြင်စွာ ကျင်းပပြီးစီးကြောင်းနှင့် ပြည်ထောင်စုမြန်မာနိုင်ငံတော် တစ်ဝန်းလုံးမှ ဆန္ဒမဲ ပေးခွင့်ရှိသူ (၂၇၂၈၈၈၂၇)ဦးအနက် (၉၈. ၁၂) ရာခိုင်နှုန်းက ဆန္ဒမဲ ပေးခဲ့ကြပြီး ယင်းသို့ ဆန္ဒမဲပေးသူများအနက် (၉၂. ၄၈) ရာခိုင်နှုန်းက ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေမူကြမ်းကို အတည်ပြုရန်နှင့် ဥပဒေနှင့်အညီ ထောက်ခံကြောင်း အစီရင်ခံထားပါသည်။

၂။ ထို့ကြောင့် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် ဖွဲ့စည်းပုံအခြေခံ ဥပဒေကို ပြည်လုံးကျွတ်ဆန္ဒခံယူပွဲကြီးက အတည်ပြုပြဋ္ဌာန်းလိုက်ကြောင်း ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီက ကြေညာချက်အမှတ် (၇/၂၀၀၈)ဖြင့် ၂၀၀၈ခုနှစ်၊ မေလ ၂၉ ရက်တွင် ထုတ်ပြန်ကြေညာခဲ့သည်။

## အစိုးရဝန်ကြီးဌာနများ

၁။ ပြည်ထဲရေးဝန်ကြီးဌာန
Ministry of Home Affairs

၂။ ကာကွယ်ရေးဝန်ကြီးဌာန
Ministry of Defence

၃။ နယ်စပ်ရေးရာဝန်ကြီးဌာန
Ministry of Border Affairs

၄။ နိုင်ငံခြားရေးဝန်ကြီးဌာန
Ministry of Foreign Affairs

၅။ ပြန်ကြားရေးဝန်ကြီးဌာန
Ministry of Information

၆။ သမ္မတရုံးဝန်ကြီးဌာန (၁)
Ministry of President's Office (1)

၇။ သမ္မတရုံးဝန်ကြီးဌာန (၂)
Ministry of President's Office (2)

၈။ သမ္မတရုံးဝန်ကြီးဌာန (၃)
Ministry of President's Office (3)

၉။ သမ္မတရုံးဝန်ကြီးဌာန (၄)
Ministry of President's Office (4)

၁၀။ သမ္မတရုံးဝန်ကြီးဌာန (၅)
Ministry of President's Office (5)

၁၁။ သမ္မတရုံးဝန်ကြီးဌာန (၆)
Ministry of President's Office (6)

၁၂။ သာသနာရေးဝန်ကြီးဌာန
Ministry of Religious Affairs



၁၃။ သမဝါယမဝန်ကြီးဌာန
Ministry of Cooperatives

၁၄။ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန
Ministry of Agriculture and Irrigation

၁၅။ မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန
Ministry of Livestock and Fisheries

၁၆။ ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန
Ministry of Communications and Information Technology

၁၇။ ပို့ဆောင်ရေး ဝန်ကြီးဌာန
Ministry of Transportation

၁၈။ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန
Ministry of Environmental Conservation and Forestry

၁၉။ လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
Ministry of Electric Power

၂၀။ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန
Ministry of Immigration and Population

၂၁။ စွမ်းအင်ဝန်ကြီးဌာန
Ministry of Energy

၂၂။ စက်မှုဝန်ကြီးဌာန
Ministry of Industry

၂၃။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
Ministry of Commerce

၂၄။ အားကစားဝန်ကြီးဌာန
Ministry of Sports

၂၅။ ပညာရေးဝန်ကြီးဌာန
Ministry of Education

၂၆။ ကျန်းမာရေးဝန်ကြီးဌာန
Ministry of Health

၂၇။ သတ္တုတွင်းဝန်ကြီးဌာန
Ministry of Mines

၂၈။ ယဉ်ကျေးမှုဝန်ကြီးဌာန
Ministry of Culture

၂၉။ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန
Ministry of Finance and Revenue

၃၀။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
Ministry of National Planning and Economic Development

၃၁။ ဆောက်လုပ်ရေး ဝန်ကြီးဌာန
Ministry of Construction

၃၂။ အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန
Ministry of Labour, Employment and Social Security

၃၃။ ရထားပို့ဆောင်ရေးဝန်ကြီးဌာန
Ministry of Rail Transportation

၃၄။ လူမှုဝန်ထမ်း၊ ကယ်ဆယ်ရေးနှင့် ပြန်လည်နေရာချထားရေး ဝန်ကြီးဌာန
Ministry of Social Welfare, Relief and Resettlement.

၃၅။ သိပ္ပံနှင့် နည်းပညာဝန်ကြီးဌာန
Ministry of Science and Technology

၃၆။ ဟိုတယ်နှင့်ခရီးသွားလာရေး ဝန်ကြီးဌာန
Ministry of Hotels and Tourism



## ပြည်ထောင်စုအစိုးရအဖွဲ့

| | | |
|---|---|---|
| ၁။ | ဦးသိန်းစိန် | = နိုင်ငံတော်သမ္မတ |
| ၂။ | ဒေါက်တာစိုင်းမောက်ခမ်း (ခ) မောင်အုန်း | = ဒုတိယသမ္မတ |
| ၃။ | ဦးညဏ်ထွန်း | = ဒုတိယသမ္မတ |
| ၄။ | ဒုတိယဗိုလ်ချုပ်ကြီးကိုကို | = ဝန်ကြီး၊ ပြည်ထဲရေးဝန်ကြီးဌာန |
| ၅။ | ဒုတိယဗိုလ်ချုပ်ကြီးဝေလွင် | = ဝန်ကြီး၊ ကာကွယ်ရေးဝန်ကြီးဌာန |
| ၆။ | ဒုတိယဗိုလ်ချုပ်ကြီးသက်နိုင်ဝင်း | = ဝန်ကြီး၊ နယ်စပ်ရေးရာဝန်ကြီးဌာန |
| ၇။ | ဦးဝဏ္ဏမောင်လွင် | = ဝန်ကြီး၊ နိုင်ငံခြားရေးဝန်ကြီးဌာန |
| ၈။ | ဦးအောင်ကြည် | = ဝန်ကြီး၊ ပြန်ကြားရေးဝန်ကြီးဌာန |
| ၉။ | ဦးသိန်းညွန့် | = ဝန်ကြီး၊ သမ္မတရုံးဝန်ကြီးဌာန(၁) |
| ၁၀။ | ဦးစိုးမောင် | = ဝန်ကြီး၊ သမ္မတရုံးဝန်ကြီးဌာန(၂) |
| ၁၁။ | ဦးစိုးသိန်း | = ဝန်ကြီး၊ သမ္မတရုံးဝန်ကြီးဌာန(၃) |
| ၁၂။ | ဦးအောင်မင်း | = ဝန်ကြီး၊ သမ္မတရုံးဝန်ကြီးဌာန(၄) |
| ၁၃။ | ဦးတင်နိုင်သိန်း | = ဝန်ကြီး၊ သမ္မတရုံးဝန်ကြီးဌာန(၅) |
| ၁၄။ | ဦးလှထွန်း | = ဝန်ကြီး၊ သမ္မတရုံးဝန်ကြီးဌာန(၆) |
| ၁၅။ | ဦးဆန်းဆင့် | = ဝန်ကြီး၊ သာသနာရေးဝန်ကြီးဌာန |
| ၁၆။ | ဦးကျော်ဆန်း | = ဝန်ကြီး၊ သမဝါယမဝန်ကြီးဌာန |
| ၁၇။ | ဦးမြင့်လှိုင် | = ဝန်ကြီး၊ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန |
| ၁၈။ | ဦးအုန်းမြင့် | = ဝန်ကြီး၊ မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန |
| ၁၉။ | ဦးမြတ်ဟိန်း | = ဝန်ကြီး၊ ဆက်သွယ်ရေးနှင့်သတင်း အချက်အလက်နည်းပညာဝန်ကြီးဌာန |

၂၀။ ဦးညဏ်ထွန်းအောင် = ဝန်ကြီး၊ ပို့ဆောင်ရေးဝန်ကြီးဌာန
၂၁။ ဦးဝင်းထွန်း = ဝန်ကြီး၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန
၂၂။ ဦးခင်မောင်စိုး = ဝန်ကြီး၊ လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
၂၃။ ဦးခင်ရီ = ဝန်ကြီး၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန
၂၄။ ဦးသန်းဌေး = ဝန်ကြီး၊ စွမ်းအင်ဝန်ကြီးဌာန
၂၅။ ဦးအေးမြင့် = ဝန်ကြီး၊ စက်မှုဝန်ကြီးဌာန
၂၆။ ဦးဝင်းမြင့် = ဝန်ကြီး၊ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
၂၇။ ဦးတင့်ဆန်း = ဝန်ကြီး၊ အားကစားဝန်ကြီးဌာန
၂၈။ ဒေါက်တာမြအေး = ဝန်ကြီး၊ ပညာရေးဝန်ကြီးဌာန
၂၉။ ဒေါက်တာဖေသက်ခင် = ဝန်ကြီး၊ ကျန်းမာရေးဝန်ကြီးဌာန
၃၀။ ဒေါက်တာမြင့်အောင် = ဝန်ကြီး၊ သတ္တုတွင်းဝန်ကြီးဌာန
၃၁။ ဦးအေးမြင့်ကြူ = ဝန်ကြီး၊ ယဉ်ကျေးမှုဝန်ကြီးဌာန
၃၂။ ဦးဝင်းရှိန် = ဝန်ကြီး၊ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန
၃၃။ ဒေါက်တာကံဇော် = ဝန်ကြီး၊ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
၃၄။ ဦးကျော်လွင် = ဝန်ကြီး၊ ဆောက်လုပ်ရေးဝန်ကြီးဌာန
၃၅။ ဦးမောင်မြင့် = ဝန်ကြီး၊ အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန
၃၆။ ဦးဇေယျာအောင် = ဝန်ကြီး၊ ရထားပို့ဆောင်ရေးဝန်ကြီးဌာန
၃၇။ ဒေါက်တာ ဒေါ်မြတ်မြတ်အုန်းခင် = ဝန်ကြီး၊ လူမှုဝန်ထမ်း၊ ကယ်ဆယ်ရေးနှင့် ပြန်လည်နေရာချထားရေးဝန်ကြီးဌာန
၃၈။ ဒေါက်တာကိုကိုဦး = ဝန်ကြီး၊ သိပ္ပံနှင့်နည်းပညာဝန်ကြီးဌာန
၃၉။ ဦးဌေးအောင် = ဝန်ကြီး၊ ဟိုတယ်နှင့်ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန
၄၀။ ဒေါက်တာထွန်းရှင် = ပြည်ထောင်စုရှေ့နေချုပ် ပြည်ထောင်စုရှေ့နေချုပ်ရုံး
၄၁။ ညွှန်ကြားရေးမှူးချုပ် အစိုးရအဖွဲ့ရုံး = အတွင်းရေးမှူး



## ပြည်ထောင်စုလွှတ်တော်မှ အတည်ပြုခန့်အပ်ခဲ့သော ရာထူးနေရာများနှင့် ပုဂ္ဂိုလ်များ

၁။ သမ္မတ - ဦးသိန်းစိန်
၃။ ဒုတိယသမ္မတ - ဒေါက်တာ စိုင်းမောက်ခမ်း (ခ)မောင်အုန်း
၂။ ဒုတိယသမ္မတ - ဦးညဏ်ထွန်း
၄။ ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌ - သူရဦးရွှေမန်း
၅။ အမျိုးသားလွှတ်တော်ဥက္ကဋ္ဌ - ဦးခင်အောင်မြင့်
၆။ ပြည်ထောင်စုတရားသူကြီးချုပ် - ဦးထွန်းထွန်းဦး
၇။ ပြည်ထောင်စုရွေးကောက်ပွဲကော်မရှင်ဥက္ကဋ္ဌ - ဦးတင်အေး
၈။ ပြည်သူ့လွှတ်တော်ဒုတိယဥက္ကဋ္ဌ - ဦးနန္ဒကျော်စွာ
၉။ အမျိုးသားလွှတ်တော်ဒုတိယဥက္ကဋ္ဌ - ဦးမြညိမ်း
၁၀။ ပြည်ထောင်စုစာရင်းစစ်ချုပ် - ဦးသိန်းထိုက်
၁၁။ ပြည်ထောင်စုရှေ့နေချုပ် - ဒေါက်တာထွန်းရှင်
၁၂။ ပြည်ထောင်စုရာထူးဝန်အဖွဲ့ဥက္ကဋ္ဌ - ဦးကျော်သူ
၁၃။ နေပြည်တော်ကောင်စီ ဥက္ကဋ္ဌ - ဦးသိန်းညွန့်

## တိုင်းဒေသကြီးနှင့် ပြည်နယ်ဝန်ကြီးချုပ်များ

၁။ ဦးလဂျွန်ငန်ဆိုင်း = ကချင်ပြည်နယ်
၂။ ဦးခင်မောင်ဦး(ခ)ဦးဘူးရယ် = ကယားပြည်နယ်
၃။ ဦးဇော်မင်း = ကရင်ပြည်နယ်
၄။ ဦးဟုန်းငိုင်း = ချင်းပြည်နယ်
၅။ ဦးအုန်းမြင့် = မွန်ပြည်နယ်
၆။ ဦးလှမောင်တင် = ရခိုင်ပြည်နယ်
၇။ ဦးအောင်မြတ် (ခ) စဝ်အောင်မြတ် = ရှမ်းပြည်နယ်
၈။ ဦးသာအေး = စစ်ကိုင်းတိုင်းဒေသကြီး
၉။ ဦးမြတ်ကို = တနင်္သာရီတိုင်းဒေသကြီး

၁၀။ ဦးဉာဏ်ဝင်း = ပဲခူးတိုင်းဒေသကြီး
၁၁။ ဦးဘုန်းမော်ရွှေ = မကွေးတိုင်းဒေသကြီး
၁၂။ ဦးရဲမြင့် = မန္တလေးတိုင်းဒေသကြီး
၁၃။ ဦးမြင့်ဆွေ = ရန်ကုန်တိုင်းဒေသကြီး
၁၄။ ဦးသိန်းအောင် = ဧရာဝတီတိုင်းဒေသကြီး

## တိုင်းဒေသကြီးလွှတ်တော်နှင့် ပြည်နယ်လွှတ်တော်အသီးသီး၌ ခန့်အပ်ထားသော လွှတ်တော်ဥက္ကဋ္ဌများ

၁။ ကချင်ပြည်နယ် - ဦးရားဝမ်ဂျို
၂။ ကယားပြည်နယ် - ဦးကျော်ဆွေ
၃။ ကရင်ပြည်နယ် - ဦးစောအောင်ကျော်မင်း
၄။ ချင်းပြည်နယ် - ဦးဟောက်ခင်းခမ်
၅။ မွန်ပြည်နယ် - ဦးကျင်ဖေ
၆။ ရခိုင်ပြည်နယ် - ဦးထိန်လင်း
၇။ ရှမ်းပြည်နယ် - ဦးစိုင်းလုံးဆိုင်
၈။ စစ်ကိုင်းတိုင်းဒေသကြီး - ဦးသင်းလှိုင်
၉။ တနင်္သာရီတိုင်းဒေသကြီး - ဦးထင်အောင်ကျော်
၁၀။ မကွေးတိုင်းဒေသကြီး - ဦးရဲမြင့်
၁၁။ မန္တလေးတိုင်းဒေသကြီး - ဦးဝင်းမောင်
၁၂။ ပဲခူးတိုင်းဒေသကြီး - ဦးဝင်းတင်
၁၃။ ရန်ကုန်တိုင်းဒေသကြီး - ဦးစိန်တင်ဝင်း
၁၄။ ဧရာဝတီတိုင်းဒေသကြီး - ဦးတင်စိုး



## ဒုတိယဝန်ကြီးများ

၁။ ဗိုလ်မှူးချုပ်ကျော်ဇံမြင့် = ဒုတိယဝန်ကြီး၊ ပြည်ထဲရေးဝန်ကြီးဌာန
၂။ ဗိုလ်မှူးချုပ်ကျော်ကျော်ထွန်း = ဒုတိယဝန်ကြီး၊ ပြည်ထဲရေးဝန်ကြီးဌာန
၃။ ဗိုလ်ချုပ်ကျော်ညွန့် = ဒုတိယဝန်ကြီး၊ ကာကွယ်ရေးဝန်ကြီးဌာန
၄။ ဗိုလ်မှူးချုပ်အောင်သော် = ဒုတိယဝန်ကြီး၊ ကာကွယ်ရေးဝန်ကြီးဌာန
၅။ ဗိုလ်ချုပ်ဇော်ဝင်း = ဒုတိယဝန်ကြီး၊ နယ်စပ်ရေးရာဝန်ကြီးဌာန
၆။ ဦးသန့်ကျော် = ဒုတိယဝန်ကြီး၊ နိုင်ငံခြားရေးဝန်ကြီးဌာန
၇။ ဦးဇင်ယော် = ဒုတိယဝန်ကြီး၊ နိုင်ငံခြားရေးဝန်ကြီးဌာန
၈။ ဦးပိုက်ထွေး = ဒုတိယဝန်ကြီး၊ ပြန်ကြားရေးဝန်ကြီးဌာန
၉။ ဦးရဲထွန်း = ဒုတိယဝန်ကြီး၊ ပြန်ကြားရေးဝန်ကြီးဌာန
၁၀။ ဦးအောင်သိမ်း = ဒုတိယဝန်ကြီး၊ သမ္မတရုံးဝန်ကြီးဌာန
၁၁။ ဦးသန့်ရှင်း = ဒုတိယဝန်ကြီး၊ သမ္မတရုံးဝန်ကြီးဌာန
၁၂။ ဦးဟန်စိန် = ဒုတိယဝန်ကြီး၊ သမ္မတရုံးဝန်ကြီးဌာန
၁၃။ ဦးချန်မောင် = ဒုတိယဝန်ကြီး၊ သမ္မတရုံးဝန်ကြီးဌာန
၁၄။ ဒေါက်တာမောင်မောင်ငွေး = ဒုတိယဝန်ကြီး၊ သာသနာရေးဝန်ကြီးဌာန
၁၅။ ဦးစိုးဝင်း = ဒုတိယဝန်ကြီး၊ သာသနာရေးဝန်ကြီးဌာန
၁၆။ ဦးသန်းထွန်း = ဒုတိယဝန်ကြီး၊ သမဝါယမဝန်ကြီးဌာန
၁၇။ ဦးအုန်းသန်း = ဒုတိယဝန်ကြီး၊ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန
၁၈။ ဦးခင်ဇော် = ဒုတိယဝန်ကြီး၊ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန
၁၉။ ဦးခင်မောင်အေး = ဒုတိယဝန်ကြီး၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန
၂၀။ ဦးသောင်းတင် = ဒုတိယဝန်ကြီး၊ ဆက်သွယ်ရေးနှင့်သတင်း အချက်အလက်နည်းပညာဝန်ကြီးဌာန
၂၁။ ဦးဝင်းသန်း = ဒုတိယဝန်ကြီး၊ ဆက်သွယ်ရေးနှင့်သတင်း အချက်အလက်နည်းပညာဝန်ကြီးဌာန

၂၂။ ဦးဟံစိန် = ဒုတိယဝန်ကြီး၊ ပို့ဆောင်ရေးဝန်ကြီးဌာန
၂၃။ ဦးအေးမြင့်မောင် = ဒုတိယဝန်ကြီး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန
၂၄။ ဒေါက်တာဒေါ်သက်သက်ဇင် = ဒုတိယဝန်ကြီး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန
၂၅။ ဦးမြင့်ဇော် = ဒုတိယဝန်ကြီး၊ လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
၂၆။ ဦးအောင်သန်းဦး = ဒုတိယဝန်ကြီး၊ လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
၂၇။ ဦးကျော်ကျော်ဝင်း = ဒုတိယဝန်ကြီး၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန
၂၈။ ဦးဝင်းမြင့် = ဒုတိယဝန်ကြီး၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန
၂၉။ ဦးစိုးအောင် = ဒုတိယဝန်ကြီး၊ စွမ်းအင်ဝန်ကြီးဌာန
၃၀။ ဦးထင်အောင် = ဒုတိယဝန်ကြီး၊ စွမ်းအင်ဝန်ကြီးဌာန
၃၁။ ဦးအောင်ထူး = ဒုတိယဝန်ကြီး၊ စွမ်းအင်ဝန်ကြီးဌာန
၃၂။ ဦးသိန်းအောင် = ဒုတိယဝန်ကြီး၊ စက်မှုဝန်ကြီးဌာန
၃၃။ ဦးမျိုးအောင် = ဒုတိယဝန်ကြီး၊ စက်မှုဝန်ကြီးဌာန
၃၄။ ဒေါက်တာပွင့်ဆန်း = ဒုတိယဝန်ကြီး၊ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
၃၅။ ဦးသောင်းထိုက် = ဒုတိယဝန်ကြီး၊ အားကစားဝန်ကြီးဌာန
၃၆။ ဦးအေးကြူ = ဒုတိယဝန်ကြီး၊ ပညာရေးဝန်ကြီးဌာန
၃၇။ ဦးဘရွှေ = ဒုတိယဝန်ကြီး၊ ပညာရေးဝန်ကြီးဌာန
၃၈။ ဒေါက်တာမျိုးမြင့် = ဒုတိယဝန်ကြီး၊ ပညာရေးဝန်ကြီးဌာန
၃၉။ ဒေါက်တာသိန်းသိန်းဌေး = ဒုတိယဝန်ကြီး၊ ကျန်းမာရေးဝန်ကြီးဌာန
၄၀။ ဒေါက်တာဝင်းမြင့် = ဒုတိယဝန်ကြီး၊ ကျန်းမာရေးဝန်ကြီးဌာန
၄၁။ ဦးသန်းထွန်းအောင် = ဒုတိယဝန်ကြီး၊ သတ္တုတွင်းဝန်ကြီးဌာန
၄၂။ ဒေါ်စန္ဒာခင် = ဒုတိယဝန်ကြီး၊ ယဉ်ကျေးမှုဝန်ကြီးဌာန
၄၃။ ဦးသန်းဆွေ = ဒုတိယဝန်ကြီး၊ ယဉ်ကျေးမှုဝန်ကြီးဌာန



၄၄။ ဒေါက်တာလင်းအောင် = ဒုတိယဝန်ကြီး၊ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန
၄၅။ ဒေါက်တာမောင်မောင်သိမ်း = ဒုတိယဝန်ကြီး၊ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန
၄၆။ ဒေါက်တာဒေါ်ခင်စန်းရီ = ဒုတိယဝန်ကြီး၊ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
၄၇။ ဦးဆက်အောင် = ဒုတိယဝန်ကြီး၊ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
၄၈။ ဦးစိုးတင့် = ဒုတိယဝန်ကြီး၊ ဆောက်လုပ်ရေးဝန်ကြီးဌာန
၄၉။ ဦးမြင့်သိန်း = ဒုတိယဝန်ကြီး၊ အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန
၅၀။ ဒေါ်ဝင်းမော်ထွန်း = ဒုတိယဝန်ကြီး၊ အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန
၅၁။ သူရဦးသောင်းလွင် = ဒုတိယဝန်ကြီး၊ ရထားပို့ဆောင်ရေးဝန်ကြီးဌာန
၅၂။ ဦးဘုန်းဆွေ = ဒုတိယဝန်ကြီး၊ လူမှုဝန်ထမ်း၊ ကယ်ဆယ်ရေးနှင့် ပြန်လည်နေရာချထားရေး
၅၃။ ဒေါ်စုစုလှိုင် = ဒုတိယဝန်ကြီး၊ လူမှုဝန်ထမ်း၊ ကယ်ဆယ်ရေးနှင့် ပြန်လည်နေရာချထားရေးဝန်ကြီးဌာန
၅၄။ ဒေါက်တာဇော်မင်းအောင် = ဒုတိယဝန်ကြီး၊ သိပ္ပံနှင့် နည်းပညာဝန်ကြီးဌာန
၅၅။ ဒေါက်တာတင်ရွှေ = ဒုတိယဝန်ကြီး၊ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

## တိုင်းဒေသကြီးနှင့် ပြည်နယ်အသီးသီး၌ ဖွဲ့စည်းထားသော ဝန်ကြီးဌာနများ

### ကချင်ပြည်နယ်

၁။ လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန
၂။ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန
၃။ စိုက်ပျိုးရေးနှင့် မွေးမြူရေးဝန်ကြီးဌာန
၄။ သစ်တောနှင့် သတ္တုဝန်ကြီးဌာန
၅။ စီမံကိန်းနှင့် စီးပွားရေးဝန်ကြီးဌာန
၆။ လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန
၇။ လျှပ်စစ်နှင့် စက်မှုလက်မှုဝန်ကြီးဌာန
၈။ စည်ပင်သာယာရေးဝန်ကြီးဌာန
၉။ လူမှုရေးဝန်ကြီးဌာန

### ကယားပြည်နယ်

၁။ လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန
၂။ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန
၃။ စိုက်ပျိုးရေးနှင့် မွေးမြူရေးဝန်ကြီးဌာန
၄။ သစ်တောနှင့် သတ္တုဝန်ကြီးဌာန
၅။ စီမံကိန်းနှင့် စီးပွားရေးဝန်ကြီးဌာန
၆။ လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန
၇။ လျှပ်စစ်နှင့် စက်မှုလက်မှုဝန်ကြီးဌာန
၈။ စည်ပင်သာယာရေးဝန်ကြီးဌာန
၉။ လူမှုရေးဝန်ကြီးဌာန

### ကရင်ပြည်နယ်

၁။ လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန
၂။ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန
၃။ စိုက်ပျိုးရေးနှင့် မွေးမြူရေးဝန်ကြီးဌာန
၄။ သစ်တောနှင့် သတ္တုဝန်ကြီးဌာန
၅။ စီမံကိန်းနှင့် စီးပွားရေးဝန်ကြီးဌာန
၆။ လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန



၇။ လျှပ်စစ်နှင့် စက်မှုလက်မှုဝန်ကြီးဌာန
၈။ စည်ပင်သာယာရေးဝန်ကြီးဌာန
၉။ လူမှုရေးဝန်ကြီးဌာန

### ချင်းပြည်နယ်

၁။ လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန
၂။ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန
၃။ စိုက်ပျိုးရေးနှင့် မွေးမြူရေးဝန်ကြီးဌာန
၄။ သစ်တောနှင့် သတ္တုဝန်ကြီးဌာန
၅။ စီမံကိန်းနှင့် စီးပွားရေးဝန်ကြီးဌာန
၆။ လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန
၇။ လျှပ်စစ်နှင့် စက်မှုလက်မှုဝန်ကြီးဌာန
၈။ စည်ပင်သာယာရေးဝန်ကြီးဌာန
၉။ လူမှုရေးဝန်ကြီးဌာန

### မွန်ပြည်နယ်

၁။ လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန
၂။ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန
၃။ စိုက်ပျိုးရေးနှင့်မွေးမြူရေးဝန်ကြီးဌာန
၄။ သစ်တောနှင့်သတ္တုဝန်ကြီးဌာန
၅။ စီမံကိန်းနှင့်စီးပွားရေးဝန်ကြီးဌာန
၆။ လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန
၇။ လျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီးဌာန
၈။ စည်ပင်သာယာရေးဝန်ကြီးဌာန
၉။ လူမှုရေးဝန်ကြီးဌာန

### ရခိုင်ပြည်နယ်

၁။ လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန
၂။ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန
၃။ စိုက်ပျိုးရေးနှင့် မွေးမြူရေးဝန်ကြီးဌာန
၄။ သစ်တောနှင့် သတ္တုဝန်ကြီးဌာန
၅။ စီမံကိန်းနှင့် စီးပွားရေးဝန်ကြီးဌာန

၆။ လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန
၇။ လျှပ်စစ်နှင့် စက်မှုလက်မှုဝန်ကြီးဌာန
၈။ စည်ပင်သာယာရေးဝန်ကြီးဌာန
၉။ လူမှုရေးဝန်ကြီးဌာန

**ရှမ်းပြည်နယ်**

၁။ လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန
၂။ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန
၃။ စိုက်ပျိုးရေးနှင့် မွေးမြူရေးဝန်ကြီးဌာန
၄။ သစ်တောနှင့် သတ္တုဝန်ကြီးဌာန
၅။ စီမံကိန်းနှင့် စီးပွားရေးဝန်ကြီးဌာန
၆။ လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန
၇။ လျှပ်စစ်နှင့် စက်မှုလက်မှုဝန်ကြီးဌာန
၈။ စည်ပင်သာယာရေးဝန်ကြီးဌာန
၉။ လူမှုရေးဝန်ကြီးဌာန

**စစ်ကိုင်းတိုင်းဒေသကြီး**

၁။ လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန
၂။ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန
၃။ စိုက်ပျိုးရေးနှင့် မွေးမြူရေးဝန်ကြီးဌာန
၄။ သစ်တော၊ သတ္တုနှင့် စွမ်းအင်ဝန်ကြီးဌာန
၅။ စီမံကိန်းနှင့် စီးပွားရေးဝန်ကြီးဌာန
၆။ လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန
၇။ လျှပ်စစ်နှင့် စက်မှုလက်မှုဝန်ကြီးဌာန
၈။ စည်ပင်သာယာရေးဝန်ကြီးဌာန
၉။ လူမှုရေးဝန်ကြီးဌာန

**တနင်္သာရီတိုင်းဒေသကြီး**

၁။ လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန
၂။ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန
၃။ စိုက်ပျိုးရေးနှင့် မွေးမြူရေးဝန်ကြီးဌာန



၄။ သစ်တောနှင့် သတ္တုဝန်ကြီးဌာန
၅။ စီမံကိန်းနှင့် စီးပွားရေးဝန်ကြီးဌာန
၆။ လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန
၇။ လျှပ်စစ်နှင့် စက်မှုလက်မှုဝန်ကြီးဌာန
၈။ စည်ပင်သာယာရေးဝန်ကြီးဌာန
၉။ လူမှုရေးဝန်ကြီးဌာန

**ပဲခူးတိုင်းဒေသကြီး**

၁။ လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန
၂။ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန
၃။ စိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန
၄။ သစ်တောနှင့် သတ္တုဝန်ကြီးဌာန
၅။ စီမံကိန်းနှင့် စီးပွားရေးဝန်ကြီးဌာန
၆။ လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန
၇။ လျှပ်စစ်နှင့် စက်မှုလက်မှုဝန်ကြီးဌာန
၈။ စည်ပင်သာယာရေးဝန်ကြီးဌာန
၉။ လူမှုရေးဝန်ကြီးဌာန

**မကွေးတိုင်းဒေသကြီး**

၁။ လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန
၂။ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန
၃။ စိုက်ပျိုးရေးနှင့် မွေးမြူရေးဝန်ကြီးဌာန
၄။ သစ်တော၊ သတ္တုနှင့် စွမ်းအင်ဝန်ကြီးဌာန
၅။ စီမံကိန်းနှင့် စီးပွားရေးဝန်ကြီးဌာန
၆။ လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန
၇။ လျှပ်စစ်နှင့် စက်မှုလက်မှုဝန်ကြီးဌာန
၈။ စည်ပင်သာယာရေးဝန်ကြီးဌာန
၉။ လူမှုရေးဝန်ကြီးဌာန

**မန္တလေးတိုင်းဒေသကြီး**

၁။ လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန
၂။ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန

၃။ စိုက်ပျိုးရေးနှင့် မွေးမြူရေးဝန်ကြီးဌာန
၄။ သစ်တောနှင့် သတ္တုတွင်းဝန်ကြီးဌာန
၅။ စီမံကိန်းနှင့် စီးပွားရေးဝန်ကြီးဌာန
၆။ လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန
၇။ လျှပ်စစ်နှင့် စက်မှုလက်မှုဝန်ကြီးဌာန
၈။ စည်ပင်သာယာရေးဝန်ကြီးဌာန
၉။ လူမှုရေးဝန်ကြီးဌာန

**ရန်ကုန်တိုင်းဒေသကြီး**

၁။ လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန
၂။ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန
၃။ စိုက်ပျိုးရေးနှင့် မွေးမြူရေးဝန်ကြီးဌာန
၄။ သစ်တောနှင့် စွမ်းအင်ဝန်ကြီးဌာန
၅။ စီမံကိန်းနှင့် စီးပွားရေးဝန်ကြီးဌာန
၆။ လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန
၇။ လျှပ်စစ်နှင့် စက်မှုလက်မှုဝန်ကြီးဌာန
၈။ စည်ပင်သာယာရေးဝန်ကြီးဌာန
၉။ လူမှုရေးဝန်ကြီးဌာန

**ဧရာဝတီတိုင်းဒေသကြီး**

၁။ လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန
၂။ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန
၃။ စိုက်ပျိုးရေးနှင့် မွေးမြူရေးဝန်ကြီးဌာန
၄။ သစ်တောနှင့် သတ္တုဝန်ကြီးဌာန
၅။ စီမံကိန်းနှင့် စီးပွားရေးဝန်ကြီးဌာန
၆။ လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန
၇။ လျှပ်စစ်နှင့် စက်မှုလက်မှုဝန်ကြီးဌာန
၈။ စည်ပင်သာယာရေးဝန်ကြီးဌာန
၉။ လူမှုရေးဝန်ကြီးဌာန



# အမျိုးသားညီလာခံ

**အမျိုးသားညီလာခံဆိုင်ရာ အရေးကြီးအချက်များ**

၁။ အမျိုးသားညီလာခံကို ရန်ကုန်မြို့ ကျိုက္ကဆံကွင်းအမျိုးသား ညီလာခံခန်းမတွင် ၁၉၉၃ ခုနှစ်မှ ၁၉၉၆ ခုနှစ်အထိကျင်းပခဲ့သည်။ ထိုစဉ်က အမျိုးသား ဒီမိုကရေစီအဖွဲ့ချုပ်မှ အမျိုးသားညီလာခံကိုယ်စားလှယ်များ ညီလာခံကိုယ်စားလှယ်အဖြစ် တက်ရောက်ခဲ့သည်။

၂။ ၁၉၉၆ ခုနှစ်၊ အောက်တိုဘာလမှစ၍ ရပ်ဆိုင်းခဲ့သည်။

၃။ ၂၀၀၄ ခုနှစ်၊ မေလ (၁၇)ရက်နေ့မှစ၍ အမျိုးသားညီလာခံကြီးကို ရန်ကုန်တိုင်း၊ မှော်ဘီမြို့နယ်၊ ညောင်နှစ်ပင်စခန်းတွင် ကျင်းပခဲ့သည်။ ယင်းအမျိုးသားညီလာခံသို့ အမျိုးသားဒီမိုကရေစီ အဖွဲ့ချုပ်မှ အမျိုးသားညီလာခံ ကိုယ်စားလှယ်များ မတက်ရောက်ခဲ့ပါ။ ၂၀၀၄ ခုနှစ်၊ ဇူလိုင် (၉)ရက်နေ့တွင် မိုးရာသီ ခေတ္တရပ်နားခဲ့သည်။

၄။ ၂၀၀၅ ခုနှစ်၊ ဖေဖော်ဝါရီလ (၁၇)ရက်နေ့တွင် ရန်ကုန်တိုင်း၊ မှော်ဘီမြို့နယ်၊ ညောင်နှစ်ပင်စခန်း၌ပင် အမျိုးသားညီလာခံကိုယ်စားလှယ် (၁၀၇၁)ဦး တက်ရောက်ခဲ့သည်။

၅။ ယင်းအမျိုးသားညီလာခံကြီးသို့ အောက်ပါနိုင်ငံရေးပါတီများမှ ကိုယ်စားလှယ်များလည်း တက်ရောက်ခဲ့သည်-
(က) ကိုးကန့်ဒီမိုကရေစီနှင့် ညီညွတ်ရေးပါတီ
(ခ) တိုင်းရင်းသားစည်းလုံးညီညွတ်ရေးပါတီ
(ဂ) ပြည်ထောင်စုကရင်အမျိုးသားအဖွဲ့ချုပ်
(ဃ) ပြည်ထောင်စုပအိုဝ့်အမျိုးသားအဖွဲ့ချုပ်
(င) မြို (ခေါ်) ခမီအမျိုးသားညီညွတ်ရေးပါတီ
(စ) လားဟူအမျိုးသားဖွံ့ဖြိုးတိုးတက်ရေးပါတီ
(ဆ) "ဝ" အမျိုးသားဖွံ့ဖြိုးတိုးတက်ရေးပါတီတို့ဖြစ်သည်။

၆။ ၂၀၀၅ ခုနှစ်၊ မတ်လ(၃၁) ရက်နေ့တွင် ခေတ္တရပ်နားခဲ့သည်။

၇။ ၂၀၀၅ ခုနှစ် ဒီဇင်ဘာ (၅)ရက်မှ ၃၁-၁-၂၀၀၆ ထိ အမျိုးသားညီလာခံကြီးကို ပြန်လည်၍ တစ်ကြိမ်ကျင်းပခဲ့ပြီး ၂၀၀၆ ခုနှစ် အောက်တိုဘာလ (၁၀)ရက်နေ့မှစ၍ စတုတ္ထအကြိမ်ပြန်လည် ကျင်းပခဲ့သည်။ ၃-၉-၂၀၀၇တွင် အမျိုးသား

ညီလာခံ အောင်မြင်စွာကျင်းပပြီးစီးသည်။ နိုင်ငံတော် ဖွဲ့စည်းပုံအခြေခံ ဥပဒေသစ်တွင် အခန်း(၁) နိုင်ငံတော်အခြေခံမူများ၊ အခန်း(၂) နိုင်ငံတော်ဖွဲ့စည်းတည်ဆောက်ပုံ၊ အခန်း(၃) နိုင်ငံတော်အကြီးအကဲ၊ အခန်း(၄) ဥပဒေပြုရေး၊ အခန်း(၅) အုပ်ချုပ်ရေး၊ အခန်း(၆) တရားစီရင်ရေး၊ အခန်း(၇) တပ်မတော်၊ အခန်း (၈) နိုင်ငံသား၊ နိုင်ငံသားများ၏ မူလအခွင့်အရေးနှင့် တာဝန်များ၊ အခန်း(၉) ရွေးကောက်တင်မြှောက်ခြင်း၊ အခန်း(၁၀) နိုင်ငံရေးပါတီများ၊ အခန်း(၁၁) အရေးပေါ် ကာလဆိုင်ရာ ပြဋ္ဌာန်းချက်များ၊ အခန်း (၁၂) ဖွဲ့စည်းပုံအခြေခံဥပဒေပြင်ဆင်ခြင်း၊ အခန်း(၁၃) နိုင်ငံတော်အလံ၊ အထိမ်းအမှတ်တံဆိပ်၊ သီချင်းနှင့် မြို့တော်၊ အခန်း(၁၄) ကူးပြောင်းရေးကာလ ပြဋ္ဌာန်းချက်များနှင့် အခန်း(၁၅) အထွေထွေ ပြဋ္ဌာန်းချက်များဟူ၍ အခန်းပေါင်း (၁၅)ခု ပါဝင်သည်။



## နိုင်ငံတော် ဖွဲ့စည်းပုံအခြေခံဥပဒေမူကြမ်း ရေးဆွဲရေးကော်မရှင်

၁။ ဦးအောင်တိုး (B.A, B.L) — ဥက္ကဋ္ဌ
တရားသူကြီးချုပ်၊ တရားရုံးချုပ်၊ နေပြည်တော်

၂။ ဦးအေးမောင် (B.A, B.L) — ဒုတိယဥက္ကဋ္ဌ
ရှေ့နေချုပ်၊ ရှေ့နေချုပ်ရုံး၊ နေပြည်တော်

၃။ ဦးသောင်းညွန့် (B.Sc, B.L) — အဖွဲ့ဝင်
ဥပဒေအကြံပေးပုဂ္ဂိုလ်၊ ရန်ကုန်မြို့

၄။ ဗိုလ်မှူးချုပ်ကျော်ဆန်း — အဖွဲ့ဝင်
[B.Sc (D.S.A), Diploma in Defence and Security]
ဝန်ကြီး၊ ပြန်ကြားရေးဝန်ကြီးဌာန၊ နေပြည်တော်

၅။ ဗိုလ်ချုပ်ခင်အောင်မြင့် — အဖွဲ့ဝင်
[B.A, Diploma in Defence and Security]
ဝန်ကြီး၊ ယဉ်ကျေးမှုဝန်ကြီးဌာန၊ နေပြည်တော်

၆။ ဗိုလ်ချုပ်စိုးမောင် — အဖွဲ့ဝင်
[B.Sc (D.S.A), H.G.P, M.A (Defence Studies)]
စစ်ဥပဒေချုပ်၊ ကာကွယ်ရေးဝန်ကြီးဌာန၊ နေပြည်တော်

၇။ ဒေါက်တာသန်းညွန့် — အဖွဲ့ဝင်
[B.A(Hons), M.Sc(Econ) (London), Ph.D (Cambridge)]
ဥက္ကဋ္ဌ၊ ဝန်ထမ်းရွေးချယ်လေ့ကျင့်ရေးအဖွဲ့၊ နေပြည်တော်

၈။ ဒေါက်တာထွန်းရှင် — အဖွဲ့ဝင်
[B.A, LL.B(Ygn:), M.A(Business Law)(London), LL.D, Intl Law(Ghent, Belgium), F.R.G.S(London), A.M.R.Ae.s(London), Dip. Intl Law(London)]
ဒုတိယရှေ့နေချုပ်၊ ရှေ့နေချုပ်ရုံး၊ နေပြည်တော်

၉။ ဦးထွန်းထွန်းဦး — အဖွဲ့ဝင်
[B.A(Law), LL.B, M.A(Defence Studies)]
ဒုတိယရှေ့နေချုပ်၊ ရှေ့နေချုပ်ရုံး၊ နေပြည်တော်

၁၀။ ဦးသိန်းစိုး အဖွဲ့ဝင်
[B.Sc(D.S.A), RL]
ဒုတိယတရားသူကြီးချုပ်၊ တရားရုံးချုပ်၊ ရန်ကုန်မြို့

၁၁။ ဦးထွန်းထွန်းဦး အဖွဲ့ဝင်
[B.A(Law), LL.B]
ဒုတိယတရားသူကြီးချုပ်၊ တရားရုံးချုပ်၊ နေပြည်တော်

၁၂။ ဒေါက်တာတင်အောင်အေး အဖွဲ့ဝင်
[B.Sc, B.L, LLM(Germany), LLD(Germany)]
တရားရုံးချုပ်တရားသူကြီး၊ တရားရုံးချုပ်၊ ရန်ကုန်မြို့

၁၃။ ဦးတင်အေး အဖွဲ့ဝင်
(B.A, H.G.P, RL)
တရားရုံးချုပ်တရားသူကြီး၊ တရားရုံးချုပ်၊ ရန်ကုန်မြို့

၁၄။ ဒေါက်တာခင်မောင်ညွန့် အဖွဲ့ဝင်
[B.A, M.A(Modern Hist), Ph.D(London)]
အဖွဲ့ဝင်၊ မြန်မာ့သမိုင်းအဖွဲ့၊ ရန်ကုန်မြို့

၁၅။ ဦးထွန်းအောင်ချိန် အဖွဲ့ဝင်
[B.A, M.A(Hist) (USA)]
အတွင်းရေးမှူး၊ မြန်မာ့သမိုင်းအဖွဲ့၊ ရန်ကုန်မြို့

၁၆။ ဒေါက်တာမောင်မောင်ဝင့် အဖွဲ့ဝင်
[M.B.B.S, MRCP (UK), FRCP (Edin), Dr.Med.Sc. (Int. Med)]
ပါမောက္ခချုပ်(ငြိမ်း)၊ ဆေးသိပ္ပံပညာဦးစီးဌာန
စာပေညွှန်ကြားရေးမှူး၊ တပ်မတော်ဆေးတက္ကသိုလ်
ကာကွယ်ရေးဝန်ကြီးဌာန၊ ရန်ကုန်မြို့

၁၇။ ဦးကျော်မြင့်ဦး အဖွဲ့ဝင်
[B.Sc, M.Sc, UNDP, Certificate in Environmental Toxicology and Pollution Control Management]
ပါမောက္ခချုပ်(ငြိမ်း)၊ ဒဂုံတက္ကသိုလ်၊ ရန်ကုန်မြို့



၁၈။ ဦးမြတ်သူ(တက္ကသိုလ်မြတ်သူ) အဖွဲ့ဝင်
[B.A(Law), LL.B, HGP]
စာရေးဆရာ၊ တရားရုံးချုပ်ရှေ့နေ
အယ်ဒီတာချုပ်(ငြိမ်း)၊ ရန်ကုန်မြို့

၁၉။ ဒေါက်တာစိုးရင် အဖွဲ့ဝင်
[B.Sc (Hons), M.Sc (UK), Ph.D (Italy)]
ပါမောက္ခချုပ်(ငြိမ်း)၊ ရန်ကုန်တက္ကသိုလ်
အဖွဲ့ဝင်၊ ဝိဇ္ဇာနှင့်သိပ္ပံပညာရှင်အမှုဆောင်အဖွဲ့၊ ရန်ကုန်မြို့

၂၀။ ဦးလေးမြင့် အဖွဲ့ဝင်
[M.A(Philo), H.G.P, RL, D.B.L, D.I.L]
တရားရုံးချုပ်ရှေ့နေနှင့်ဥပဒေအကြံပေး၊ ရန်ကုန်မြို့

၂၁။ ဒေါက်တာမျိုးသန့်တင် အဖွဲ့ဝင်
[B.E(Chemical), M.Sc (Chem, Eng), Ph.D (Loughborough, England)]
အဖွဲ့ဝင်၊ ဝိဇ္ဇာနှင့်သိပ္ပံပညာရှင်အမှုဆောင်အဖွဲ့၊ ရန်ကုန်မြို့

၂၂။ ဒေါက်တာမြင့်သိန်း အဖွဲ့ဝင်
[B.Sc, B.Sc(Hons), M.Sc, B.L, M.A(USA), Ph.D(USA)]
ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံစိုက်ပျိုးရေး၊ သစ်တော၊
မွေးမြူရေးနှင့်ရေလုပ်ငန်းပညာရှင်အဖွဲ့၊ ရန်ကုန်မြို့

၂၃။ ဒေါက်တာသာလှရွှေ အဖွဲ့ဝင်
[M.B.B.S, DPTM, DCMT(UK), M.S. Ed(USA), Dr.Med.Sc]
ပါမောက္ခချုပ်(ငြိမ်း)၊ ဆေးတက္ကသိုလ်(၂)
ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံကြက်ခြေနီအသင်း၊ ရန်ကုန်မြို့

၂၄။ ဒေါက်တာနီလာသိန်း အဖွဲ့ဝင်
[B.Sc.(Chem:)(Hons;), M.Sc(CS), Ph.D(Singapore)]
ပါမောက္ခချုပ်၊ ကွန်ပျူတာတက္ကသိုလ်၊ ရန်ကုန်မြို့

၅၀၇၀ ဦးတို့အား ဖျက်သိမ်းခဲ့သော အမျိုးသားထောက်လှမ်းရေးအဖွဲ့၏ ဆောင်ရွက်ခဲ့မှုများအနက် မလျော်ကန်သော ဆောင်ရွက်မှုများ ပါဝင်နိုင်သည်ဟု ပြန်လည်သုံးသပ်ပြီး တတိယအကြိမ် လွတ်ငြိမ်းချမ်းသာခွင့် ပေးအပ်ခဲ့သည်။

၁၄။ နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၏ ၃၁-၁၂-၂၀၀၄ ရက်စွဲပါစာအမှတ် ၊ ၀၄/နရက (ဥ/မည) ဖြင့်(၅၇)နှစ်မြောက် လွတ်လပ်ရေးနေ့ အထိမ်းအမှတ်အဖြစ် အကျဉ်းသား ၅၅၈၈ ဦးအား အကျင့်စာရိတ္တကောင်းမွန်လာသော အကျဉ်းသားများအား ငဲ့ညှာသောအားဖြင့်လည်းကောင်း၊ ယင်းတို့၏ မိသားစုများအား ငဲ့ညှာသောအားဖြင့်လည်းကောင်း၊ ၄င်းတို့သည် နိုင်ငံတော်၏ မေတ္တာ၊ စေတနာကို နားလည်ပြီး မိမိအကျိုး၊ ဒေသအကျိုးနှင့် နိုင်ငံ့အကျိုးကို ဆက်လက်သယ်ပိုးရွက်ဆောင်သွားကြလိမ့်မည်ဟု မျှော်လင့်သဖြင့်လည်းကောင်း၊ သက်ဆိုင်ရာ အကျဉ်းစခန်းအသီးသီးမှ ၂၀၀၅ခုနှစ်၊ ဇန်နဝါရီလ ၃ရက်နေ့မှစ၍ လွှတ်ပေးလိုက်ခြင်းဖြစ်သည်။ ထိုသို့လွှတ်ပေးခြင်းမှာ ပြည်ထောင်စုမပြိုကွဲရေးနှင့် တိုင်းရင်းသားစည်းလုံးညီညွတ်မှုမပြိုကွဲရေးနှင့် အချုပ်အခြာအာဏာ တည်တံ့ခိုင်မြဲရေးတည်းဟူသော ဒို့တာဝန်အရေးသုံးပါးကို ဦးထိပ်ထားခြင်းဖြစ်သည်။

၁၅။ ၂၀၀၅ခုနှစ်၊ ဇူလိုင်လ ၃ရက်နေ့တွင် နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၏ စာအမှတ်၊၀၄/နရက(ဥ/မည)ဖြင့် အကျဉ်းသား ၄၁၀ဦးအား လွတ်ငြိမ်းချမ်းသာခွင့်ပြုခဲ့သည်။

၁၆။ ၂၀၀၆ခုနှစ်၊ ဒီဇင်ဘာလ ၃၀ရက်နေ့ နံနက် ၁၁နာရီ ၃၅မိနစ်တွင် မူဆယ်မြို့နယ်၊ ကြယ်ဂေါင်နယ်စပ်ဂိတ်၌ တရုတ်နိုင်ငံသား အကျဉ်းသား၃၀ဦးနှင့် အကျဉ်းသူ တစ်ဦးအား တရုတ်ပြည်သူ့သမ္မတနိုင်ငံ၏ မေတ္တာရပ်ခံချက်အရ လွှဲပြောင်းပေးအပ်ခဲ့သည်။ နှစ်နိုင်ငံ ချစ်ကြည်ရေးကို ရှေးရှု၍ ၂၀၀၆ ခုနှစ်၊ မေလ ၂၇ ရက်နေ့တွင် တရုတ်နိုင်ငံသား အကျဉ်းသား၊ အကျဉ်းသူ ၈၆ ဦးကိုလည်းကောင်း၊ ဇွန် ၇ရက်နေ့တွင် ၉၆ဦးအားလည်းကောင်း၊ ဇွန် ၁၇ရက်တွင် ၄၂၇ ဦးအားလည်းကောင်း၊ ဩဂုတ် ၁၆ရက်နေ့တွင် ၆၉ ဦးအားလည်းကောင်း၊ စုစုပေါင်း တရုတ်နိုင်ငံသား အကျဉ်းသား၊ အကျဉ်းသူ ၆၇၈ ဦးတို့ကို လွှဲပြောင်းပေးအပ်ခဲ့သည်။



၁၇။ နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၏ ၂-၁-၂၀၀၇ ရက်စွဲပါစာအမှတ်၊ ၀၄/နရက(ဥ/မည)ဖြင့် ၂၀၀၇ခုနှစ်၊ ဇန်နဝါရီလ ၄ရက်နေ့တွင် ကျရောက်သည့် (၅၉)နှစ်မြောက် လွတ်လပ်ရေးနေ့ အထိမ်းအမှတ်အဖြစ် အကျဉ်းသား၂၈၃၁ဦးအား နိုင်ငံတော်တည်ဆောက်ရေးတွင် တစ်ဖက်တစ်လမ်းမှ ပါဝင်လာစေရန်အတွက်လည်းကောင်း၊ ၅၉ နှစ်မြောက်လွတ်လပ်ရေးနေ့ အထိမ်းအမှတ်အဖြစ်လည်းကောင်း၊ ဇန်နဝါရီလ ၃ ရက်နေ့တွင် ပြစ်ဒဏ်မှ လွတ်ငြိမ်းချမ်းသာခွင့်ပေးလိုက်သည်။

၁၈။ နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၏ ၁၅-၁၁-၂၀၀၇ ရက်စွဲပါစာအမှတ်၊ ၀၆/နရက(ဥ/မည)ဖြင့် ၂၀၀၇ခုနှစ်၊ နိုဝင်ဘာလ ၁၆ရက်မှ ဒီဇင်ဘာလ ၃ရက်အတွင်း အကျဉ်းသား ၈၅၈၅ ဦးအား ၂၀၀၇ ခုနှစ် စက်တင်ဘာလတွင် အမျိုးသားညီလာခံကြီးကို အောင်မြင်စွာ ကျင်းပပြီးစီးနိုင်ခဲ့ခြင်းကိုလည်းကောင်း၊ နိုင်ငံတော်ရှေ့ဆက်သွားမည့် မူဝါဒလမ်းစဉ်(၇)ရပ်အနက် တတိယအဆင့်ဖြစ်သည့် နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေမူကြမ်း ရေးဆွဲရေးကော်မရှင်ကို ဖွဲ့စည်းခဲ့ပြီးလုပ်ငန်းများ စတင်ဆောင်ရွက်နိုင်သည့် အထိမ်းအမှတ်အဖြစ်လည်းကောင်း၊ ပြည်တွင်း အမျိုးသားစည်းလုံးညီညွတ်ရေးနှင့် ကမ္ဘာ့ကုလသမဂ္ဂအသင်းကြီး အပါအဝင် နိုင်ငံတကာနှင့် ချစ်ကြည်ရင်းနှီးစွာ ပူးပေါင်းလက်တွဲ ဆောင်ရွက်မှု အထိမ်းအမှတ်အဖြစ်လည်းကောင်း ရည်ရွယ်ရှေးရှုပြီး လွတ်ငြိမ်းချမ်းသာခွင့်ပေးလိုက်ခြင်းဖြစ်သည်။ ဖော်ပြပါ အကျဉ်းသားများထဲ၌ နိုဝင်ဘာ ၃၀ရက်နေ့တွင် ထိုင်းနိုင်ငံသား အကျဉ်းသား ၃၃ဦးလည်း ပါဝင်သည်။

၁၉။ နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၏ ၂၃-၉-၂၀၀၈ ရက်စွဲပါစာအမှတ်၊၁၁/နရက(ဥ/မည)ဖြင့် အကျဉ်းသား ၉၀၀၂ဦးအား လူမှုရေးအရ စာနာထောက်ထားခြင်းအားဖြင့် လည်းကောင်း၊ ယင်းတို့၏ မိသားစုများအား ငဲ့ညှာသောအားဖြင့်လည်းကောင်း၊ ၄င်းတို့သည် နိုင်ငံတော်၏ မေတ္တာ၊ စေတနာကို နားလည်ကြပြီး မိမိအကျိုး၊ ဒေသအကျိုးနှင့်၂၀၁၀ပြည့်နှစ်အတွင်း ကျင်းပမည့် တရားမျှတသော ရွေးကောက်ပွဲများတွင်လည်း အများပြည်သူတို့နှင့်အတူတူ နိုင်ငံတော်အကျိုးကို ထမ်းရွက်သွားနိုင်ကြစေရန်အတွက်လည်းကောင်း ပြစ်ဒဏ်ကျခံခြင်း ရပ်စဲ၍ လွတ်ငြိမ်းချမ်းသာခွင့်များ ပေးအပ်ခဲ့သည်။

၂၀။ နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၏ ၂၀-၂-၂၀၀၉ ရက်စွဲပါစာအမှတ်၊ ၀၆/နရက(ဥ/မည)ဖြင့် ၂၀၀၉ခုနှစ်၊ ဖေဖော်ဝါရီ ၂၁ရက်နေ့တွင် နိုင်ငံသားအကျဉ်းသား၊ အကျဉ်းသူ၆၃၁၃ဦးတို့အား လူသားချင်း စာနာထောက်ထားမှုနှင့် သနားချစ်ခင်မှုတို့ကို အလေးထားသည့်အနေဖြင့်လည်းကောင်း၊ ယင်းတို့၏ မိသားစုများအားငဲ့ညှာသော အနေဖြင့်လည်းကောင်း၊ ယင်းတို့သည် နိုင်ငံတော်၏ မေတ္တာနှင့်စေတနာကို နားလည်ကြပြီး မိမိအကျိုး၊ ဒေသအကျိုးနှင့်၂၀၁၀ပြည့်နှစ်အတွင်း ကျင်းပမည့် တရားမျှတသော ရွေးကောက်ပွဲများတွင်လည်း အများပြည်သူတို့နှင့်အတူ နိုင်ငံတော်အကျိုးကို ထမ်းရွက်သွားနိုင်ကြစေရန်အတွက်လည်းကောင်း ပြစ်ဒဏ်ကျခံခြင်းမှ ရပ်စဲ၍ လွတ်ငြိမ်းချမ်းသာခွင့်များ ပေးအပ်ခဲ့သည်။

၂၁။ ၂၀၀၉ခုနှစ်၊ စက်တင်ဘာလ ၁၇ရက်နေ့တွင် နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီသည် ပြစ်မှုဆိုင်ရာ ကျင့်ထုံးဥပဒေပုဒ်မ ၄၀၁၊ ပုဒ်မခွဲ(၁)အရ အကျဉ်းသား (၇၁၁၄)ဦးတို့အား လွတ်ငြိမ်းချမ်းသာခွင့်ပြုခဲ့သည်။



## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## အစိုးရသစ်လက်ထက်တွင် လွတ်ငြိမ်းချမ်းသာခွင့်ပေးခဲ့သော ဖြစ်စဉ်များ

**ပထမအကြိမ်(၁၆-၅-၂၀၁၁ရက်နေ့တွင် လွတ်ငြိမ်းချမ်းသာခွင့် ပြုခဲ့သည့် အကျဉ်းသား ၁၄၇၅၈ ဦး)**

၁၆-၅-၂၀၁၁ရက်နေ့တွင် နိုင်ငံတော်သမ္မတရုံး၏ အမိန့်အမှတ် (၂၈/၂၀၁၁) ဖြင့် ၂၀၁၁ခုနှစ်၊ မေလ ၁၇ရက် မတိုင်မီ ကျူးလွန်ခဲ့သော ပြစ်မှုတစ်ခုခုနှင့် စပ်လျဉ်း၍ ပြစ်ဒဏ်ချမှတ်ခြင်း ခံရပြီးပါက ယင်းကဲ့သို့ ကျခံနေရသော ပြစ်ဒဏ်အသီးသီးကို အောက်ပါအတိုင်း လွတ်ငြိမ်းချမ်းသာခွင့် ပြုလိုက်သည်-

(က) သေဒဏ်ချမှတ်စေခြင်းခံရသူများအတွက် ထောင်ဒဏ်တစ်သက်သို့ လည်းကောင်း၊

(ခ) ထောင်ဒဏ်ကျခံနေရသူများသည် ယင်းတို့အပေါ် သတ်မှတ်ထားသော ထောင်ဒဏ်ကို သာမန်ရရှိပြီးသော လျှော့ပေါ့ရက်များအပြင်(၁)နှစ် (တစ်နှစ်)ထပ်မံ လျှော့ပေါ့ ရရှိစေရန်လည်းကောင်း၊

**ဒုတိယအကြိမ် (၁၁-၁၀-၂၀၁၁ရက်နေ့တွင် လွတ်ငြိမ်းချမ်းသာခွင့်ပြုခဲ့သည့် အကျဉ်းသား ၆၃၅၉ ဦး)**

၁၁-၁၀-၂၀၁၁ ရက်နေ့တွင် နိုင်ငံတော်သမ္မတရုံး၏ အမိန့်အမှတ်(၄၉/၂၀၁၁) ဖြင့် ထိုက်သင့်သော ပြစ်ဒဏ်များကို ကျခံပြီးဖြစ်သည့် စည်းကမ်းနှင့် အကျင့်စာရိတ္တကောင်းမွန်လာသော အကျဉ်းသားများအား လူသားချင်း စာနာထောက်ထားမှုနှင့် သနားချစ်ခင်မှုတို့ကို အလေးထားသည့်အနေဖြင့်လည်းကောင်း၊ ယင်းတို့၏ မိသားစုများအား ငဲ့ညှာသောအနေဖြင့်လည်းကောင်း၊ ယင်းတို့သည် နိုင်ငံတော်၏ မေတ္တာနှင့် စေတနာကို နားလည်ကြပြီး မိမိအကျိုး၊ ဒေသအကျိုး၊ နိုင်ငံအကျိုးအတွက် အများပြည်သူနှင့်အတူ တာဝန်ထမ်းဆောင်သွားနိုင်စေရန်အတွက် လည်းကောင်း ၂၀၁၁ ခုနှစ်၊ အောက်တိုဘာလ ၁၂ရက်နေ့မှစ၍ လွတ်ငြိမ်းချမ်းသာ ခွင့်ပြုခဲ့သည့် အကျဉ်းသား ၆၃၅၉ဦး ဖြစ်သည်။

၅-၁၂-၂၀၁၁ရက်နေ့တွင် ကျရောက်မည့် ထိုင်းနိုင်ငံဘုရင်မင်းမြတ်၏ (၈၄) နှစ်မြောက် ရက်မြတ်မွေးနေ့ မင်္ဂလာ ကျရောက်မည်ဖြစ်သောကြောင့်လည်းကောင်း၊ နှစ်နိုင်ငံချစ်ကြည်ရေးနှင့် မိတ်ဝတ်မပြတ် ဆက်ဆံရေးတို့ကို ရှေးရှုသောအားဖြင့်

လည်းကောင်း၊ လူမှုရေးအရ ငဲ့ညှာသောအားဖြင့်လည်းကောင်း ၂-၁၂-၂၀၁၁ ရက်နေ့တွင် မြန်မာနိုင်ငံ အကျဉ်းထောင်အသီးသီး၌ ပြစ်ဒဏ်ကျခံလျက်ရှိသော ထိုင်းနိုင်ငံသား အကျဉ်းသား(၈)ဦးအား ပြစ်ဒဏ်မှ လျော့ပေါ့ပြီး လွတ်ငြိမ်းချမ်းသာခွင့်ပေးကာ ပြည်နှင်ဒဏ်ပေးခဲ့သည်။

**တတိယအကြိမ် (၂-၁-၂၀၁၂ ရက်နေ့တွင် လွတ်ငြိမ်းချမ်းသာခွင့်ပြုခဲ့သည့် အကျဉ်းသား ၆၆၅၆ ဦး)**

၂-၁-၂၀၁၂ ရက်နေ့တွင် နိုင်ငံတော်သမ္မတရုံး၏ အမိန့်အမှတ်(၁/၂၀၁၂)ဖြင့် လွတ်လပ်ရေးနေ့အား ဂုဏ်ပြုသောအားဖြင့် ၂၀၁၂ခုနှစ်၊ ဇန်နဝါရီလ ၂ရက်နေ့ မတိုင်မီ ကျူးလွန်ခဲ့သော ပြစ်မှုတစ်ခုခုနှင့် စပ်လျဉ်း၍ ပြစ်ဒဏ်ချမှတ်ခြင်းခံရပြီးပါက ယင်းတို့ကို ကျခံနေရသော ပြစ်ဒဏ်အသီးသီးကို အောက်ပါအတိုင်း လွတ်ငြိမ်းချမ်းသာခွင့်ပြုခဲ့သည်-

(က) သေဒဏ်ချမှတ်စေခြင်း ခံရသူများအတွက် ထောင်ဒဏ် တစ်သက် (နှစ်အကန့်အသတ်မရှိ)သို့ ပြောင်းလဲကျခံစေရန်လည်းကောင်း၊

(ခ) ထောင်ဒဏ် နှစ်(၃၀)အထက် (နှစ်အကန့်အသတ်မရှိနှင့် ထောင်ဒဏ်တစ်သက်ကျခံနေရသည့် အကျဉ်းသားများမပါ)အား ထောင်ဒဏ် (၃၀) နှစ်သို့ လျော့ပေါ့ ကျခံစေရန်လည်းကောင်း၊

(ဂ) ထောင်ဒဏ်နှစ်(၂၀)အထက်မှ ထောင်ဒဏ် နှစ်(၃၀)အထိ ကျခံနေရသည့် အကျဉ်းသားများအား ထောင်ဒဏ် နှစ်(၂၀)သို့ လျော့ပေါ့ကျခံစေရန်လည်းကောင်း၊

(ဃ) ထောင်ဒဏ် နှစ်(၂၀)အောက် ကျခံနေရသည့် အကျဉ်းသားများအား ယင်းတို့ကျခံနေသော ထောင်ဒဏ်၏ လေးပုံတစ်ပုံအား လျော့ပေါ့ ကျခံစေရန်လည်းကောင်း၊

**စတုတ္ထအကြိမ် (၁၂-၁-၂၀၁၂ ရက်နေ့တွင် လွတ်ငြိမ်းချမ်းသာခွင့် ပြုခဲ့သည့် အကျဉ်းသား ၆၅၁ ဦး)**

၁၂-၁-၂၀၁၂ ရက်နေ့တွင် ပြစ်မှုဆိုင်ရာ ကျင့်ထုံးဥပဒေပုဒ်မ ၄၀၁၊ ပုဒ်မခွဲ(၁) အရ နိုင်ငံတော်သမ္မတသည် နိုင်ငံတော်တည်ငြိမ်ရေးနှင့် ထာဝရငြိမ်းချမ်းမှုဖော်ဆောင်ရေးအတွက်လည်းကောင်း၊ အမျိုးသားပြန်လည် စည်းလုံးညီညွတ်ရေး



အတွက်လည်းကောင်း၊ နိုင်ငံရေးလုပ်ငန်းစဉ်များတွင် အားလုံးပါဝင်နိုင်ခွင့် ရရှိရေးအတွက်လည်းကောင်း၊ လူသားချင်း စာနာထောက်ထားမှုကို အလေးပေးသောအားဖြင့်လည်းကောင်း၊ နိုင်ငံတော်၏ မေတ္တာနှင့် စေတနာကို နားလည်ကြပြီး နိုင်ငံတော်သစ်တည်ဆောက်ရေးတွင် တစ်ဖက်တစ်လမ်းမှ အထောက်အပံ့ဖြစ်စေသည့် နိုင်ငံသားများအဖြစ်သို့ ပြုပြင်ပြောင်းလဲနိုင်စေရေးအတွက်လည်းကောင်း ရည်ရွယ်၍ အကျဉ်းထောင်အသီးသီးမှ ပြစ်ဒဏ်ကျခံလျက်ရှိသော အကျဉ်းသား၊ အကျဉ်းသူ(၆၅၁)ဦးအား ၂၀၁၂ခုနှစ်၊ ဇန်နဝါရီ ၁၃ ရက်နေ့မှစ၍ လွတ်ငြိမ်းချမ်းသာခွင့်ပြုလိုက်သည်

**ပဉ္စမအကြိမ် (၃-၇-၂၀၁၂ ရက်နေ့တွင် ပြစ်ဒဏ်လွတ်ငြိမ်းခွင့်ပြုခဲ့သည့် အကျဉ်းသား ၈၀ ဦး )**

၃-၇-၂၀၁၂ ရက်နေ့တွင် ပြစ်မှုဆိုင်ရာ ကျင့်ထုံးဥပဒေပုဒ်မ ၄၀၁(၁)အရ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် နိုင်ငံတော်သမ္မတသည် နိုင်ငံတော်တည်ငြိမ်ရေးနှင့် ထာဝရငြိမ်းချမ်းမှုဖော်ဆောင်ရေးအတွက်လည်းကောင်း၊ အမျိုးသားပြန်လည်စည်းလုံးညီညွတ်ရေးအတွက်လည်းကောင်း၊ နိုင်ငံရေးလုပ်ငန်းစဉ်များတွင် အားလုံးပါဝင်နိုင်ခွင့်ရှိစေရေးအတွက်လည်းကောင်း၊ လူသားချင်း စာနာထောက်ထားမှုကို အလေးပေးသောအားဖြင့်လည်းကောင်း၊ နိုင်ငံတော်၏ မေတ္တာနှင့် စေတနာကို နားလည်ကြပြီး နိုင်ငံတော်တည်ဆောက်ရေးတွင် တစ်ဖက်တစ်လမ်းမှ အထောက်အပံ့ဖြစ်စေသည့် နိုင်ငံသားများအဖြစ်သို့ ပြုပြင်ပြောင်းလဲစေရန်အတွက်လည်းကောင်း ရည်ရွယ်၍ နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေ ပုဒ်မ ၂၀၄ (က)နှင့်အညီ အကျဉ်းထောင်အသီးသီးမှ ပြစ်ဒဏ်ကျခံလျက်ရှိသော နိုင်ငံသားအကျဉ်းသား ၃၇ ဦး၊ နိုင်ငံသား အကျဉ်းသူကိုးဦး စုစုပေါင်း ၄၆ ဦးနှင့် နှစ်နိုင်ငံချစ်ကြည်ရေး၊ နိုင်ငံအချင်းချင်း မိတ်ဝတ်မပျက်ဆက်ဆံရေးတို့ကို ရှေးရှုသောအားဖြင့်လည်းကောင်း၊ လူမှုရေးအရ ငဲ့ညှာသောအားဖြင့်လည်းကောင်း နိုင်ငံခြားသားအကျဉ်းသား ၃၄ ဦး စုစုပေါင်း၈၀ ဦးတို့အား ၃-၇-၂၀၁၂ ရက်နေ့မှစ၍ ပြစ်ဒဏ်လွတ်ငြိမ်းခွင့်ပြုခဲ့သည်။

**ဆဋ္ဌမအကြိမ် (၁၇-၉-၂၀၁၂ ရက်နေ့တွင် ပြစ်ဒဏ်လွတ်ငြိမ်းခွင့်ပြုခဲ့သည့် အကျဉ်းသား ၅၁၄ ဦး )**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံတော်သမ္မတသည် နိုင်ငံတော်တည်ငြိမ်ရေးနှင့် ထာဝရငြိမ်းချမ်းမှုဖော်ဆောင်ရေးအတွက်လည်းကောင်း၊

လူသားချင်းစာနာ ထောက်ထားမှုကို အလေးပေးသောအားဖြင့်လည်းကောင်း၊ နိုင်ငံတော်၏ မေတ္တာနှင့် စေတနာကိုနားလည်ကြပြီး နိုင်ငံတော်တည်ဆောက်ရေးတွင် တစ်ဖက်တစ်လမ်းမှ အထောက်အပံ့ဖြစ်စေသည့် နိုင်ငံသားများအဖြစ်သို့ ပြုပြင်ပြောင်းလဲစေရန်အတွက်လည်းကောင်း၊ အိမ်နီးချင်းနိုင်ငံများနှင့် နိုင်ငံအချင်းချင်း မိတ်ဝတ်မပျက်ဆက်ဆံရေး၊ ချစ်ကြည်ရေးတို့အတွက်လည်းကောင်း ရည်ရွယ်၍ နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေ ပုဒ်မ ၂၀၄(က)နှင့်အညီ အကျဉ်းထောင်အသီးသီးမှ အကျဉ်းသားများဖြစ်ကြသည့် နိုင်ငံခြားသား အကျဉ်းသားများ အပါအဝင် စုစုပေါင်းအကျဉ်းသား(၅၁၄)ဦးတို့အား ပြစ်မှုဆိုင်ရာ ကျင့်ထုံး ဥပဒေ ပုဒ်မ ၄၀၁(၁)အရ ၁၇-၉-၂၀၁၂ ရက်နေ့မှစ၍ လွတ်ငြိမ်းချမ်းသာခွင့်ပြုလိုက်သည်။

**သတ္တမအကြိမ် (၁၅-၁၁-၂၀၁၂ ရက် နေ့တွင် ပြစ်ဒဏ်လွတ်ငြိမ်းခွင့် ပြုခဲ့သည့် အကျဉ်းသား ၄၅၂ ဦး )**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် သမ္မတသည် နိုင်ငံတော်တည်ငြိမ်ရေးနှင့် ထာဝရငြိမ်းချမ်းမှုဖော်ဆောင်ရေးအတွက်လည်းကောင်း၊ အမျိုးသားပြန်လည်စည်းလုံးညီညွတ်ရေးအတွက်လည်းကောင်း၊ နိုင်ငံတော်၏ မေတ္တာနှင့် စေတနာကို နားလည်ကြပြီး နိုင်ငံတော်တည်ဆောက်ရေးတွင် တစ်ဖက်တစ်လမ်းမှ အထောက်အပံ့ ဖြစ်စေမည့် နိုင်ငံသားများအဖြစ်သို့ ပြုပြင်ပြောင်းလဲစေရန် အတွက်လည်းကောင်း၊ လူသားချင်း စာနာထောက်ထားမှုကို အလေးပေးသောအားဖြင့်လည်းကောင်း၊ နှစ်နိုင်ငံချစ်ကြည်ရေး၊ နိုင်ငံအချင်းချင်း မိတ်ဝတ်မပျက်ဆက်ဆံရေးတို့ကို ရှေးရှုသောအားဖြင့်လည်းကောင်း၊ နိုင်ငံတော် ဖွဲ့စည်းပုံအခြေခံဥပဒေပုဒ်မ ၂၀၄၊ ပုဒ်မခွဲ (က)နှင့်အညီ အကျဉ်းထောင်အသီးသီးမှ ပြစ်ဒဏ်များကို ထိုက်သင့်စွာကျခံပြီးကြသော အသက်အရွယ်ကြီးရင့်သူများ၊ ကျန်းမာရေးချို့တဲ့သူများနှင့် နိုင်ငံခြားသား အကျဉ်းသားများ အပါအဝင် စုစုပေါင်း အကျဉ်းသား ၄၅၂ ဦးအား ပြစ်မှုဆိုင်ရာကျင့်ထုံးဥပဒေ ပုဒ်မ ၄၀၁(၁) ၂၀၁၂ ခုနှစ်၊ နိုဝင်ဘာ ၁၅ ရက်မှစ၍ ပြစ်ဒဏ်မှ လွတ်ငြိမ်းသက်သာခွင့်ပြုခဲ့ပြီး နိုင်ငံခြားသားများအား ပြည်နှင်ဒဏ်ပေးမည်ဖြစ်သည်။



**အဋ္ဌမအကြိမ် (၁၆-၁၁-၂၀၁၂ ရက်နေ့တွင် ပြစ်ဒဏ်လွတ်ငြိမ်းခွင့်ပြုခဲ့သည့် အကျဉ်းသား ၆၆ ဦး )**

နိုင်ငံတော်သမ္မတသည် နိုင်ငံတော် ဖွဲ့စည်းပုံအခြေခံဥပဒေပုဒ်မ ၂၀၄ ပုဒ်မခွဲ(က)နှင့် အညီ နိုင်ငံတော်၏ မေတ္တာနှင့် စေတနာကိုနားလည်ပြီး နိုင်ငံတော်တည်ဆောက်ရေးတွင် တစ်ဖက်တစ်လမ်းမှ အထောက်အပံ့ဖြစ်စေမည့် နိုင်ငံသားများအဖြစ်သို့ ပြုပြင်ပြောင်းလဲစေရန်အတွက် ပြစ်မှုဆိုင်ရာ ကျင့်ထုံးဥပဒေပုဒ်မ ၄၀၁(၁)အရ အကျဉ်းထောင် အသီးသီးမှ ထိုက်သင့်စွာ ပြစ်ဒဏ်ကျခံပြီးဖြစ်သည့် အကျဉ်းသား များအားစိစစ်၍ နိုဝင်ဘာ ၁၆ ရက်တွင်လည်း ထိုက်သင့်စွာ ပြစ်ဒဏ်ကျခံပြီး ဖြစ်သည့်အကျဉ်းသားများအား ထပ်မံစိစစ်၍ အကျဉ်းသား/အကျဉ်းသူ ၆၆ ဦး အား ပြစ်ဒဏ်မှ လွတ်ငြိမ်းသက်သာခွင့်ပြုပေးခဲ့သည်။

**နဝမအကြိမ် (၂၃-၄-၂၀၁၃ ရက်နေ့တွင် ပြစ်ဒဏ်လွတ်ငြိမ်းခွင့်ပြုခဲ့သည့် အကျဉ်းသား ၉၃ ဦး )**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံတော်သမ္မသည် နိုင်ငံရေးလုပ်ငန်းစဉ်များတွင် အားလုံးပါဝင်ခွင့်ရရှိစေရေးအတွက် လည်းကောင်း၊ လူသားချင်းစာနာထောက်ထားမှုကို အလေးပေးသောအားဖြင့်လည်းကောင်း၊ နိုင်ငံအချင်းချင်း မိတ်ဝတ်မပျက်ဆက်ဆံရေး၊ နှစ်နိုင်ငံချစ်ကြည်ရေးတို့ကို ရှေးရှုသောအားဖြင့် လည်းကောင်း၊ လူမှုရေးအရ ငဲ့ညှာသောအားဖြင့် လည်းကောင်း အကျဉ်းသား/ အကျဉ်းသူ (၉၃) ဦးတို့အား နိုင်ငံတော်၏ မေတ္တာနှင့် စေတနာကို နားလည်ကြပြီး မိမိအကျိုး၊ ဒေသအကျိုး၊ နိုင်ငံအကျိုးအတွက် အများပြည်သူနှင့်အတူ တာဝန်ထမ်းဆောင်သွားနိုင်စေရန် ပြစ်ဒဏ်လွတ်ငြိမ်းခွင့်ပေးခဲ့သည်။ အကျဉ်းထောင်၊ အလုပ်စခန်းများတွင် ထိုက်သင့်သော ပြစ်ဒဏ်များကို ကျခံပြီးဖြစ်သည့် နိုင်ငံသား အကျဉ်းသား/ကျဉ်းသူ (၉၀) နှင့် နိုင်ငံခြားသား အကျဉ်းသား/အကျဉ်းသူ (၃) ဦး စုစုပေါင်း အကျဉ်းသား/အကျဉ်းသူ (၉၃) ဦးတို့အား နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံ ဥပဒေ ပုဒ်မ ၂၀၄(က)နှင့်အညီ ပြစ်မှုဆိုင်ရာကျင့်ထုံးဥပဒေ ပုဒ်မ ၄၀၁ (၁) အရ ၂၀၁၃ ခုနှစ် ဧပြီ ၂၃ ရက်မှစ၍ ပြစ်ဒဏ်လွတ်ငြိမ်းခွင့်ပြုခဲ့ပြီး နိုင်ငံခြားသား အကျဉ်းသား/ အကျဉ်းသူတို့အား ပြည်နှင်ဒဏ်ပေးခဲ့သည်။

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အစိုးရသစ်လက်ထက် ငြိမ်းချမ်းရေးဆွေးနွေးမှု အခြေအနေများ

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၁။ | ၁၈-၈-၂၀၁၁ | **ငြိမ်းချမ်းရေးဆွေးနွေးရန်ဖိတ်ခေါ်ခြင်း**<br>၁။ နိုင်ငံတော်အစိုးရသည် ဒို့တာဝန်အရေး (၃)ပါးကို ထိန်းသိမ်းပြီး အေးချမ်းသာယာ၍ ဖွံ့ဖြိုးတိုးတက်သော နိုင်ငံတော်ကို တည်ဆောက်ရန်အတွက် နိုင်ငံတော်အတွင်းရှိ လက်နက်ကိုင် ပဋိပက္ခများ ချုပ်ငြိမ်းပြီး ပြည်တွင်းငြိမ်းချမ်းရေးကို တည်ဆောက်ကာ နေရာဒေသအနှံ့ ဖွံ့ဖြိုးတိုးတက်ရေး၊ ငြိမ်းချမ်းရေး ဆွေးနွေးရန် ဖိတ်ခေါ်ခြင်း လုပ်ငန်းများကို နိုင်ငံတော်နှင့် ပြည်သူတစ်ရပ်လုံး ပူးပေါင်းတည်ဆောက်သွားရန် အထူးပင်လိုအပ်သည်ဟု ယုံကြည်ပါသည်။<br>၂။ လက်နက်ကိုင် ပဋိပက္ခများ ဖြေရှင်းပြီး ငြိမ်းချမ်းရေးဖော်ဆောင်လိုသော တိုင်းရင်းသား လက်နက်ကိုင်အဖွဲ့အစည်းများသည် မိမိတို့ တစ်ဖွဲ့ချင်းအလိုက် ပထမအဆင့်အနေဖြင့်ပဏာမ ဆောင်ရွက်ရန် လိုအပ်သောလုပ်ငန်းစဉ်များကို ဆောင်ရွက်နိုင်ရန်အတွက် သက်ဆိုင်ရာပြည်နယ်နှင့် တိုင်းဒေသကြီး အစိုးရအဖွဲ့နှင့် ဆက်သွယ်ဆောင်ရွက်နိုင်ပါသည်။<br>၃။ ပဏာမ ဆောင်ရွက်ဖွယ်ရာများ ဆောင်ရွက်ပြီးပါက နိုင်ငံတော်အစိုးရဘက်မှ ဆွေးနွေးမည့် အဖွဲ့အစည်းဖွဲ့စည်းပြီး သက်ဆိုင်ရာ ငြိမ်းချမ်းရေးဖော်ဆောင်မည့်အဖွဲ့အစည်းနှင့် ဆွေးနွေးရေးလုပ်ငန်းစဉ်များကို ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ဖိတ်ခေါ်အပ်ပါသည်။ | ပြည်ထောင်စုအစိုးရအဖွဲ့ ကြေညာချက်အမှတ်၊ ၁/၂၀၁၁ |



## ‘ဝ’အထူးဒေသ(၂)နှင့် ငြိမ်းချမ်းရေး ဆွေးနွေးမှုများ

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၁။ | ၆-၉-၂၀၁၁ | **ရှမ်းပြည်နယ်အစိုးရအဖွဲ့နှင့်‘ဝ’အထူးဒေသ(၂)မှ အဖွဲ့များ ပဏာမငြိမ်းချမ်းရေး သဘောတူညီချက်များရရှိ။ သဘောတူညီချက်ကို နှစ်ဖက်လက်မှတ်ရေးထိုး**<br>ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် အစိုးရ၏ ငြိမ်းချမ်းရေး ဖိတ်ခေါ်ချက်အရ ငြိမ်းချမ်းရေးတည်ဆောက်ရန်အတွက် နိုင်ငံတော်အစိုးရသို့ ကမ်းလှမ်းလာသော ‘ဝ’ အထူးဒေသ(၂)အဖွဲ့နှင့် ရှမ်းပြည်နယ် အစိုးရမှဖွဲ့စည်းပေးသော ပြည်နယ်အဆင့် ငြိမ်းချမ်းရေး ဖော်ဆောင်ရေးအဖွဲ့တို့သည် ၂၀၁၁ခုနှစ်၊ စက်တင်ဘာ ၆ ရက်တွင် ကျိုင်းတုံမြို့၌ တွေ့ဆုံဆွေးနွေးခဲ့ကြသည်။<br>ဆွေးနွေးပွဲသို့ ရှမ်းပြည်နယ် ငြိမ်းချမ်းရေး ဖော်ဆောင်ရေးအဖွဲ့ခေါင်းဆောင် ရှမ်းပြည်နယ် လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန၊ ဝန်ကြီး ဗိုလ်မှူးကြီး အောင်သူနှင့် အဖွဲ့ဝင်များဖြစ်ကြသည့် ရှမ်းပြည်နယ်၊ ပြည်နယ်ဥပဒေချုပ် ဦးမောင်မောင်၊ တြိဂံဒေသတိုင်းစစ်ဌာနချုပ်မှ ဒုတိယဗိုလ်မှူးကြီး ဇော်ထွန်းမြင့်၊ ရှမ်းပြည်နယ် နယ်စပ်ဒေသ ဖွံ့ဖြိုးရေးဦးစီးဌာနမှ ဖွံ့ဖြိုးရေးမှူး ဦးအောင်ကျော်မြင့်တို့ တက်ရောက်ခဲ့ကြပြီး ‘ဝ’အထူးဒေသ(၂)အဖွဲ့မှ ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့ခေါင်းဆောင် ဗဟိုကော်မတီဝင် ဦးကျောက်ကွမ်းအမ်းနှင့် | |

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | အဖွဲ့ဝင်များဖြစ်ကြသည့် ဗဟိုကော်မတီဝင် ဦးပေါက်ယူလျှန်၊ ဗဟိုကော်မတီဝင် ဦးအောင်မြင့်တို့ တက်ရောက်ခဲ့ကြသည်။<br>ဆွေးနွေးပွဲအပြီးတွင် 'ဝ' ဒေသနှင့် ဆက်စပ်နယ်မြေများ တည်ငြိမ်အေးချမ်းရေးနှင့် ဖွံ့ဖြိုးတိုးတက်ရေးများ ပူးပေါင်းဆောင်ရွက်ရန်အတွက် ပဏာမ သဘောတူညီချက်များကို လက်မှတ်ရေးထိုးခဲ့ကြပြီး ပြည်ထောင်စုအစိုးရက ဖွဲ့စည်းမည့် ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့နှင့် ဆက်လက်ဆွေးနွေးကြသည်။ | |
| ၂။ | ၁-၁၀-၂၀၁၁ | **ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့နှင့် 'ဝ' အထူးဒေသ(၂) ငြိမ်းချမ်းရေး ဖော်ဆောင်ရေးအဖွဲ့တို့ ပထမအကြိမ် ငြိမ်းချမ်းရေးကိစ္စများ ညှိနှိုင်းဆွေးနွေး**<br>ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် ပြည်ထောင်စုအစိုးရအဖွဲ့မှ ဖွဲ့စည်းပေးသည့် ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့နှင့် 'ဝ'အထူးဒေသ(၂)မှ ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့တို့သည် အောက်တိုဘာ၁ရက်၊ နံနက်၉နာရီတွင် လားရှိုးမြို့၌ နှစ်ဖက်တွေ့ဆုံ၍ ငြိမ်းချမ်းရေးကိစ္စများအား ပထမအကြိမ် ဆွေးနွေးကြသည်။<br>တွေ့ဆုံဆွေးနွေးရာတွင် 'ဝ' အထူးဒေသ(၂)အဖွဲ့ခေါင်းဆောင် ဦးရှောက်မင်လျံမှ 'ဝ' အထူးဒေသ(၂)သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ အစိတ်အပိုင်း | |



| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | တစ်ခုဖြစ်ကြောင်း၊ ပြည်ထောင်စုမှ ခွဲထွက်မည်မဟုတ်ကြောင်း၊ တိုင်းပြည်ပြိုကွဲအောင်မည်သည့်အခါမျှ ပြုလုပ်လိမ့်မည် မဟုတ်ကြောင်းနှင့် ပြည်တွင်းငြိမ်းချမ်းရေးကို ရေရှည်ဆက်လက်ထိန်းသိမ်း၍ နယ်စပ်ဒေသ တည်ငြိမ်အေးချမ်းရေးနှင့် ဖွံ့ဖြိုးတိုးတက်ရေးကို နိုင်ငံတော်အစိုးရနှင့်အတူ ပူးပေါင်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဆွေးနွေးပြောကြားခဲ့သည်။<br>ဆက်လက်၍ ပညာရေး၊ ကျန်းမာရေးနှင့် နှစ်ဖက်ဆက်ဆံရေးရုံးများ ပြန်လည်ဖွင့်လှစ်ရေး၊ ဝန်ထမ်းများပြန်လည်တာဝန်ပေးစေလွှတ်ပေးရေး၊ မူးယစ်ဆေးဝါးပပျောက်အောင် နိုင်ငံတော်အစိုးရနှင့်အတူ ပူးပေါင်းဆောင်ရွက်ရေး၊ နယ်စပ်ဒေသ ဖွံ့ဖြိုးတိုးတက်ရေးနှင့် စီးပွားရေးအခြေခံလုပ်ငန်းများ စီမံဆောင်ရွက်ပေးရေး ကိစ္စရပ်များအပေါ် နှစ်ဦးနှစ်ဖက်ညှိနှိုင်းဆွေးနွေး၍ သဘောတူညီချက်များအား လက်မှတ်ရေးထိုးကြသည်။<br>တွေ့ဆုံဆွေးနွေးပွဲတွင် ပြည်ထောင်စုအစိုးရ ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့မှ အဖွဲ့ခေါင်းဆောင် ဦးအောင်သောင်း (တောင်သာမြို့နယ် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်)နှင့် အဖွဲ့ဝင်ကိုးဦး 'ဝ' အထူးဒေသ (၂) မှ အဖွဲ့ခေါင်းဆောင် ဦးရှောက်မင်လျံ(ဒုတိယဥက္ကဋ္ဌ) နှင့် အဖွဲ့ဝင် ၁၅ ဦးတို့ တက်ရောက်ကြသည်။ | |

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၃။ | ၂၆-၁၂-၂၀၁၁ | **ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့နှင့် ‘ဝ’အထူးဒေသ(၂) ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့တို့ ဒုတိယအကြိမ် ပြည်ထောင်စုအဆင့် ဆွေးနွေးပွဲ ပြုလုပ်ပြီး သဘောတူညီချက်များ လက်မှတ်ရေးထိုး**<br>ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေး နွေးရေးအဖွဲ့ခေါင်းဆောင် တောင်သာမြို့နယ် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ် ဦးအောင်သောင်း၊ ဒုတိယအဖွဲ့ခေါင်းဆောင် မြစ်ကြီးနားမြို့နယ် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ် ဦးသိန်းဇော်နှင့် အဖွဲ့ဝင်များဖြစ်သော သမဝါယမဝန်ကြီးဌာနနှင့် မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီး ဦးအုန်းမြင့်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ ပြည်ထောင်စု ဝန်ကြီး ဦးဝင်းထွန်း၊ ပြည်သူ့လွှတ်တော်ကိုယ်စားလှယ် ဦးမောင်မောင်သိမ်းနှင့် ဒုတိယဝန်ကြီးများ၊ ဒုတိယရှေ့နေချုပ်နှင့် အဖွဲ့ဝင်များသည် ဒီဇင်ဘာ ၂၆ ရက်နေ့တွင် ‘ဝ’ အထူးဒေသ(၂)၊ ဒုတိယဥက္ကဋ္ဌ ဦးရှောက်မင်လျံ ခေါင်း ဆောင်သော‘ဝ’အထူးဒေသ (၂)ငြိမ်းချမ်း ရေးဆွေးနွေးရေးအဖွဲ့တို့နှင့် ရှမ်းပြည်နယ်၊ ပန်ဆန်းမြို့၌ နှစ်ဦးနှစ်ဖက် သဘောတူညီချက် (၆) ချက်ကို လက်မှတ်ရေးထိုးကြပြီး အပြန်အလှန် လဲလှယ်ခဲ့ကြသည်။ | |



| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၄။ | ၄-၁၂-၂၀၁၂ | **ပန်ဆန်းအထူးဒေသ(၂)မှ အဖွဲ့ဝင်များနှင့်တွေ့ဆုံ၍ ငြိမ်းချမ်းရေးဆိုင်ရာကိစ္စရပ်များဆွေးနွေး**<br>ပြည်ထောင်စုငြိမ်းချမ်းရေး ဖော်ဆောင်ရေး လုပ်ငန်းကော်မတီ ဒုတိယဥက္ကဋ္ဌများဖြစ်ကြသည့် သမ္မတရုံးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဦးအောင်မင်းနှင့် ပြည်သူ့လွှတ်တော် တိုင်းရင်းသားရေးရာနှင့် ပြည်တွင်းငြိမ်းချမ်းရေးဖော်ဆောင်မှုကော်မတီဥက္ကဋ္ဌ ဦးသိန်းဇော်၊ အဖွဲ့ဝင်များနှင့် တာဝန်ရှိသူများသည် ဒီဇင်ဘာ ၄ ရက် နံနက် ၁၁ နာရီခွဲတွင် တပ်မတော်ရဟတ်ယဉ်များဖြင့် ပန်ဆန်းမြို့သို့ ရောက်ရှိကြရာ ပန်ဆန်းအထူးဒေသ(၂) ဒုတိယဥက္ကဋ္ဌ ဦးရှောက်မင်လျံနှင့် အဖွဲ့ဝင်များ၊ တိုင်းရင်းသားတိုင်းရင်းသူများက ကြိုဆိုနှုတ်ဆက်ကြသည်။ ထို့နောက် ဒုတိယဥက္ကဋ္ဌများ၊ အဖွဲ့ဝင်များနှင့် တာဝန်ရှိသူများသည် ပန်ဆန်းအထူးဒေသ(၂) ဒုတိယဥက္ကဋ္ဌမှ ဦးရှောက်မင်လျှံနှင့် အဖွဲ့ဝင်များအားအထူးဒေသ(၂) ဌာနချုပ် အစည်းအဝေးခန်းမ၌ တွေ့ဆုံပြီး ငြိမ်းချမ်းရေးဆိုင်ရာကိစ္စရပ်များကို ဆွေးနွေးကြသည်။ | |

**အထူးဒေသ(၄)နှင့် ငြိမ်းချမ်းရေးဆွေးနွေးမှုများ**

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၁။ | ၇-၉-၂၀၁၁ | **ရှမ်းပြည်နယ်အစိုးရအဖွဲ့နှင့် မိုင်းလားအထူးဒေသ(၄)မှ အဖွဲ့များ ပဏာမငြိမ်းချမ်းရေးသဘောတူညီချက်ကို လက်မှတ် ရေးထိုး**<br>ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အစိုးရ၏ ငြိမ်းချမ်းရေးဖိတ်ခေါ်ချက်အရ ငြိမ်းချမ်းရေးတည်ဆောက်ရန်အတွက် နိုင်ငံတော်အစိုးရသို့ ကမ်းလှမ်းလာသော မိုင်းလားအထူးဒေသ(၄) အဖွဲ့နှင့် ရှမ်းပြည်နယ်အစိုးရမှ ဖွဲ့စည်းပေးသော ပြည်နယ်အဆင့် ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့တို့သည် ၂၀၁၁ ခုနှစ်၊ စက်တင်ဘာ ၇ ရက်နေ့တွင် ကျိုင်းတုံမြို့၌ တွေ့ဆုံဆွေးနွေးခဲ့ကြသည်။<br>ဆွေးနွေးပွဲသို့ ရှမ်းပြည်နယ် ငြိမ်းချမ်းရေးဖော်ဆောင်ရေး အဖွဲ့ခေါင်းဆောင် ရှမ်းပြည်နယ် လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန၊ ဝန်ကြီး ဗိုလ်မှူးကြီး အောင်သူနှင့် အဖွဲ့ဝင်များဖြစ်ကြသည့် ရှမ်းပြည်နယ် ပြည်နယ်ဥပဒေချုပ် ဦးမောင်မောင်၊ တြိဂံဒေသတိုင်းစစ်ဌာနချုပ်မှ ဒုတိယဗိုလ်မှူးကြီး ဇော်ထွန်းမြင့်၊ ရှမ်းပြည်နယ် နယ်စပ်ဒေသ ဖွံ့ဖြိုးရေးဦးစီးဌာနမှ ဖွံ့ဖြိုးရေးမှူး ဦးအောင်ကျော်မြင့်တို့ တက်ရောက်ခဲ့ကြပြီး မိုင်းလားအထူးဒေသ(၄)အဖွဲ့မှ ငြိမ်းချမ်းရေးဖော်ဆောင်ရေး အဖွဲ့ခေါင်းဆောင် | |



| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | အထူးဒေသ(၄)၊ (ဒုတိယဥက္ကဋ္ဌ ဦးစံပေ့နှင့် အဖွဲ့ဝင်များဖြစ်ကြသော အထွေထွေအတွင်းရေးမှူး ဦးအိုက်ရှုန်လာ၊ ဒုတိယစစ်ဦးစီးမှူး ဦးလမ်းအောင်၊ ဆက်ဆံရေးမှူး ဦးဇင်ခမ်းနော်တို့ တက်ရောက်ခဲ့ကြကြောင်း သိရှိရသည်။<br>ဆွေးနွေးပွဲအပြီးတွင် မိုင်းလားအထူးဒေသ(၄) နယ်မြေအတွင်း တည်ငြိမ်အေးချမ်းရေးနှင့် ဖွံ့ဖြိုးတိုးတက်ရေးများ ပူးပေါင်းဆောင်ရွက်ရန်အတွက် ပဏာမသဘောတူညီချက်များကို လက်မှတ်ရေးထိုးခဲ့ကြပြီး ပြည်ထောင်စုအစိုးရက ဖွဲ့စည်းမည့် ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့နှင့် ဆက်လက်ဆွေးနွေးကြမည်ဖြစ်သည်။ | |
| ၂။ | ၉-၁၀-၂၀၁၁ | **ပြည်ထောင်စုအစိုးရအဖွဲ့က ဖွဲ့စည်းပေးသည့် ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးမည့်အဖွဲ့နှင့် အထူးဒေသ(၄) ငြိမ်းချမ်းရေးဆွေးနွေးမည့်အဖွဲ့တို့ ငြိမ်းချမ်းရေးကိစ္စများ ပထမအကြိမ်ဆွေးနွေး**<br>ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် ပြည်ထောင်စုအစိုးရအဖွဲ့က ဖွဲ့စည်းပေးသည့် ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးမည့် အဖွဲ့နှင့် အထူးဒေသ(၄) ငြိမ်းချမ်းရေးဆွေးနွေးမည့် အဖွဲ့တို့သည် အောက်တိုဘာ ၉ရက် နံနက် ၁၀နာရီ ၂၅မိနစ်က ကျိုင်းတုံမြို့၌ နှစ်ဖက် တွေ့ဆုံ၍ ငြိမ်းချမ်းရေးကိစ္စများကို ပထမ အကြိမ် | |

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | ဆွေးနွေးကြသည်။ ထိုသို့တွေ့ဆုံရာတွင် အထူးဒေသ(၄) အဖွဲ့ခေါင်းဆောင် ဦးစံပေ့က အထူးဒေသ(၄)သည် ပြည်ထောင်စုအတွင်းမှ ခွဲထွက်ခြင်း၊ နိုင်ငံတော်ကို ဆန့်ကျင်ခြင်း စသည်တို့ကို လုံးဝပြုလုပ်မည်မဟုတ်ကြောင်း ပြည်တွင်းငြိမ်းချမ်းရေးနှင့် နယ်စပ်ဒေသဖွံ့ဖြိုးတိုးတက်ရေးအတွက် အထူးဒေသ(၄)၏ စွမ်းရည်များ ဖြင့် ပူးပေါင်းဆောင်ရွက်သွားမည်ဖြစ် ကြောင်း ဆွေးနွေးပြောကြားသည်။<br>ဆက်လက်၍ နှစ်ဦးနှစ်ဖက် ဆက်ဆံရေးရုံးများ ပြန်လည်ဖွင့်လှစ်ရေး၊ အထူးဒေသ (၄)တွင်ပညာရေး၊ ကျန်းမာရေး၊ စိုက်ပျိုးရေး၊ လမ်းပန်းဆက်သွယ်မှုကောင်းမွန်ရေး၊ ဝန်ထမ်းများ ပြန်လည်တာဝန်ပေးစေလွှတ်ရေး၊ မူးယစ်ဆေးဝါး ပပျောက်ရေးကိစ္စများအပေါ် နှစ်ဦးနှစ်ဖက် ပူးပေါင်းဆောင်ရွက်ရေး ညှိနှိုင်းဆွေးနွေး၍ သဘောတူညီချက်များကို လက်မှတ်ရေးထိုးကြသည်။<br>အဆိုပါ တွေ့ဆုံဆွေးနွေးပွဲတွင် ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေးနွေးမည့်အဖွဲ့မှ တောင်သာမြို့နယ် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ် ဦးအောင်သောင်းခေါင်းဆောင်သောအဖွဲ့ဝင် (၁၀)ဦး၊ အထူးဒေသ(၄)မှ ဦးစံပေ့ခေါင်းဆောင်သော အဖွဲ့ဝင် (၁၀) ဦးတို့ တက်ရောက်ကြကြောင်းနှင့် ဆွေးနွေးမှုများ ထပ်မံပြုလုပ် သွားမည်ဖြစ်ကြောင်း သိရှိရသည်။ ဆွေးနွေးပွဲအပြီး | |



| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | တွင် နှစ်ဦးနှစ်ဖက် လက်ဆောင်များ ပေးအပ်ကြသည်။ | |
| ၃။ | ၂၇-၁၂-၂၀၁၁ | **ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့နှင့် အထူးဒေသ(၄) ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့တို့ ဒုတိယအကြိမ်ပြည်ထောင်စုအဆင့် ဆွေးနွေးပွဲပြုလုပ်ပြီး သဘောတူညီချက်များ လက်မှတ်ရေးထိုး**<br>ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့နှင့် အထူးဒေသ(၄) ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့တို့ မိုင်းလားမြို့၊ အထူးဒေသ(၄) ဌာနချုပ်ရုံး အစည်းအဝေးခန်းမ၌ ဒုတိယအကြိမ်ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးတွေ့ဆုံဆွေးနွေးခဲ့ကြသည်။ ဆွေးနွေးပွဲတွင် ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့ခေါင်းဆောင် တောင်သာမြို့နယ်ပြည်သူ့လွှတ်တော်ကိုယ်စားလှယ် ဦးအောင်သောင်း၊ ဒုတိယအဖွဲ့ခေါင်းဆောင် မြစ်ကြီးနားမြို့နယ် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ် ဦးသိန်းဇော်နှင့် အဖွဲ့ဝင်များဖြစ်သော သမဝါယမဝန်ကြီးဌာနနှင့် မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဦးအုန်းမြင့်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဦးဝင်းထွန်း၊ ပြည်သူ့လွှတ်တော်ကိုယ်စားလှယ် ဦးမောင်မောင်သိမ်းနှင့် ဒုတိယဝန်ကြီးများ၊ ဒုတိယ | |

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | ရှေ့နေချုပ်နှင့် အဖွဲ့ဝင်များသည် အထူးဒေသ (၄)ဥက္ကဋ္ဌ ဦးစိုင်းလင်း၊ ဒုတိယဥက္ကဋ္ဌ ဦးစံပေ့နှင့် အတွင်းရေးမှူး ဦးခမ်းမောင်တို့အဖွဲ့များသည် ၂၇-၁၂-၂၀၁၁ ရက်နေ့တွင် ဒုတိယအကြိမ် ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး တွေ့ဆုံဆွေးနွေးပွဲကို ကျင်းပခဲ့သည်။ ဆွေးနွေးပွဲတွင် သဘောတူညီချက် (၆)ချက်ကို လက်မှတ်ရေးထိုးကြပြီး အပြန်အလှန် လဲလှယ်ခဲ့ကြသည်။ | |
| ၄။ | ၃-၁၂-၂၀၁၂ | **နယ်မြေဒေသဖွံ့ဖြိုးတိုးတက်ရေးတို့အတွက် လိုအပ်ချက်များ ပြည်ထောင်စုအစိုးရအဖွဲ့နှင့် ပြည်နယ်အစိုးရအဖွဲ့တို့ ဆောင်ရွက်ပေးသွားမည်**<br>ပြည်ထောင်စုငြိမ်းချမ်းရေး ဖော်ဆောင်ရေးလုပ်ငန်းကော်မတီ ဒုတိယဥက္ကဋ္ဌများဖြစ်ကြသည့် သမ္မတရုံးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဦးအောင်မင်းနှင့် ပြည်သူ့လွှတ်တော် တိုင်းရင်းသားရေးရာနှင့် ပြည်တွင်းငြိမ်းချမ်းရေးဖော်ဆောင်မှုကော်မတီဥက္ကဋ္ဌ ဦးသိန်းဇော်၊ အဖွဲ့ဝင်များနှင့် တာဝန်ရှိသူများသည် ဒီဇင်ဘာ ၃ ရက်တွင် ရှမ်းပြည်နယ် မိုင်းလားမြို့သို့ ရောက်ရှိကြပြီး မိုင်းလား အထူးဒေသ(၄) ဥက္ကဋ္ဌ ဦးစိုင်းလင်းနှင့် အဖွဲ့ဝင်များနှင့် အထူးဒေသ(၄) ဌာနချုပ်ရုံး အစည်းအဝေးခန်းမ၌ တွေ့ဆုံပြီး ငြိမ်းချမ်းရေးဆိုင်ရာ ကိစ္စရပ်များကို ဆွေးနွေးကြသည်။ | |



## ကလို့ထူးဘောတပ်ဖွဲ့(ယခင်DKBA)နှင့် ငြိမ်းချမ်းရေးဆွေးနွေးမှုများ

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၁။ | ၃-၁၁-၂၀၁၁ | **ကရင်ပြည်နယ် ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့နှင့် ကလို့ထူးဘောတပ်ဖွဲ့ (ယခင် DKBA)တို့ပဏာမ ငြိမ်းချမ်းရေး သဘောတူညီချက် လက်မှတ်ရေးထိုး**<br>ကရင်ပြည်နယ် ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့နှင့် ကလို့ထူးဘောတပ်ဖွဲ့ (ယခင် DKBA)တို့သည် ၂၀၁၁ ခုနှစ်၊ နိုဝင်ဘာ ၃ရက်တွင် ဘားအံမြို့၌ နှစ်ဦးနှစ်ဖက်တွေ့ဆုံဆွေးနွေးညှိနှိုင်းမှုများ ပြုလုပ်ကြပြီး ငြိမ်းချမ်းရေးတည်ဆောက်ရန်အတွက် ပဏာမငြိမ်းချမ်းရေး သဘောတူညီချက် (၅)ချက်ကို လက်မှတ်ရေးထိုးကြသည်။<br>ကရင်ပြည်နယ်အစိုးရအဖွဲ့ လုံခြုံရေးနှင့် နယ်စပ်ရေးရာ ဝန်ကြီးဌာန၊ ဝန်ကြီး ဗိုလ်မှူးကြီးအောင်လွင် ခေါင်းဆောင်သော ကရင်ပြည်နယ် ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့မှ အဖွဲ့ဝင်လေးဦးနှင့် ကလို့ထူးဘောတပ်ဖွဲ့၏ ဒုတိယခေါင်းဆောင် ဦးစောမူရှေးခေါင်းဆောင်သော ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့မှ အဖွဲ့ဝင်လေးဦးတို့ နှစ်ဖက်တွေ့ဆုံဆွေးနွေးညှိနှိုင်းကြပြီး ပဏာမ သဘောတူညီချက် (၅) ရပ်ကို လက်မှတ်ရေးထိုးခဲ့ကြသည်။ | |

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၂။ | ၁၁-၁၂-၂၀၁၁ | **ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့နှင့် ကလို့ထူးဘောတပ်ဖွဲ့(ယခင် DKBA) ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့တို့ ပြည်ထောင်စုအဆင့် ဆွေးနွေးပွဲ ပြုလုပ်ပြီး နှစ်ဖက်သဘောတူညီချက်များ လက်မှတ်ရေးထိုး**<br>ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့နှင့် ကလို့ထူးဘောအဖွဲ့ (ယခင် DKBA) တို့ ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးတွေ့ဆုံဆွေးနွေးပြီး ၁၀-၁၂-၂၀၁၁ရက်နေ့တွင် နှစ်ဖက်သဘောတူညီချက်များ လက်မှတ်ရေးထိုးခဲ့သည်။ ဆွေးနွေးပွဲတွင် ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးမည့် အဖွဲ့ခေါင်းဆောင် တောင်သာမြို့နယ် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ် ဦးအောင်သောင်း ဦးဆောင်သော အဖွဲ့ဝင်(၇)ဦးနှင့် ကလို့ထူးဘောအဖွဲ့မှ ဦးစောလားပွယ် ဦးဆောင်သောအဖွဲ့ဝင်(၆)ဦးတို့သည် ကရင်ပြည်နယ် ဘားအံမြို့၌ ပထမအကြိမ် ပြည်ထောင်စုအဆင့် တွေ့ဆုံဆွေးနွေးညှိနှိုင်းမှုများ ပြုလုပ်ကြပြီး နှစ်ဦးနှစ်ဖက်သဘောတူညီချက် (၆) ချက်ကို လက်မှတ်ရေးထိုးကြသည်။ | |



**KIO နှင့် ငြိမ်းချမ်းရေးဆွေးနွေးမှုများ**

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၁။ | ၂၉-၁၁-၂၀၁၁ | **ဦးအောင်သောင်း၊ ဦးသိန်းဇော်၊ ဦးအောင်မင်းတို့နှင့်KIOအဖွဲ့ ငြိမ်းချမ်းရေးတွေ့ဆုံဆွေးနွေးပွဲပြုလုပ်ခဲ့။ 'ပထမအဆင့်'နှစ်ဦးနှစ်ဖက် အပစ်အခတ်ရပ်စဲရေးနှင့် နိုင်ငံရေးအရ ဆွေးနွေးနိုင်ရေးအတွက် တွေ့ဆုံဆွေးနွေးပွဲများ ဆက်လက်ပြုလုပ်သွားနိုင်ရန် ညှိနှိုင်းခဲ့။**<br>၂၀၁၁ခုနှစ်၊ နိုဝင်ဘာ ၂၉ ရက်မွန်းလွဲ ၂ နာရီ ၃၅မိနစ်တွင် တရုတ်ပြည်သူ့သမ္မတနိုင်ငံ ရွှေလီမြို့ ရေပူစမ်းဟိုတယ်၌ အဖွဲ့ခေါင်းဆောင် ဦးအောင်သောင်း၊ ဦးသိန်းဇော်၊ ရထားပို့ဆောင်ရေး ဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဦးအောင်မင်းတို့ ဦးဆောင်သောအဖွဲ့နှင့် ကချင်ပြည်နယ်မှ KIO အဖွဲ့ဥက္ကဋ္ဌ ဦးဇောင်းဟရား ဦးဆောင်သော ဗဟိုကော်မတီဝင် ခြောက်ဦးတို့သည် ဒေသတွင်း ငြိမ်းချမ်းရေး တည်ဆောက်ရေးအတွက် တွေ့ဆုံဆွေးနွေးပွဲပြုလုပ်ကြသည်။<br>တွေ့ဆုံဆွေးနွေးပွဲတွင် ဦးအောင်သောင်း ဦးဆောင်သောအဖွဲ့နှင့် KIO အဖွဲ့တို့ သည် ပထမအဆင့် နှစ်ဦးနှစ်ဖက် အပစ်အခတ် ရပ်စဲရေးနှင့် နိုင်ငံရေးအရ ဆွေးနွေးသွားနိုင်ရေးအတွက် တွေ့ဆုံဆွေးနွေးပွဲများကို ဆက်လက်ပြုလုပ်သွားရန် ညှိနှိုင်းခဲ့ကြသည်။<br>တွေ့ဆုံဆွေးနွေးပွဲအပြီးတွင် နှစ်ဖက်အဖွဲ့တို့သည် အမှတ်တရ လက်ဆောင်ပစ္စည်းများကို အပြန်အလှန် ပေးအပ်ခဲ့ကြသည်။ | |

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၂။ | ၁၈-၁-၂၀၁၂ | **ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့ခေါင်းဆောင် ဦးအောင်သောင်းခေါင်းဆောင်သော အဖွဲ့ဝင်များသည် KIO ကိုယ်စားလှယ်အဖွဲ့နှင့် ငြိမ်းချမ်းရေး တွေ့ဆုံဆွေးနွေး**<br>ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့ခေါင်းဆောင် ဦးအောင်သောင်း ခေါင်းဆောင်သော အဖွဲ့ဝင်များသည် KIO ကိုယ်စားလှယ်အဖွဲ့နှင့် ငြိမ်းချမ်းရေးတွေ့ဆုံဆွေးနွေးရန်အတွက် ဇန်နဝါရီ ၁၈ ရက်တွင် တရုတ်ပြည်သူ့သမ္မတနိုင်ငံ ရွှေလီမြို့သို့ ရောက်ရှိကြသည်။<br>ထို့နောက် ဇန်နဝါရီ ၁၈ ရက်နှင့် ၁၉ ရက်တို့တွင် တရုတ်ပြည်သူ့သမ္မတနိုင်ငံ ရွှေလီမြို့ ကျင်းချိန်ဟိုတယ်၌ ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့ခေါင်းဆောင် ဦးအောင်သောင်း ဦးဆောင်သောအဖွဲ့နှင့် ကိုယ်စားလှယ်အဖွဲ့ခေါင်းဆောင်၊ အမြဲတမ်း KIO ဗဟိုကော်မတီဝင် ဦးဆွမ်လွတ်ဂမ်ခေါင်းဆောင်သော အဖွဲ့သည် ဒေသတွင်းငြိမ်းချမ်းရေး တည်ဆောက်ရန်အတွက် ရင်းနှီးပွင့်လင်းစွာ တွေ့ဆုံဆွေးနွေးခဲ့ကြသည်။<br>ဇန်နဝါရီ ၁၉ ရက်တွေ့ဆုံဆွေးနွေးပွဲအပြီးတွင် ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့နှင့် KIO ကိုယ်စားလှယ်အဖွဲ့တို့သည် ထာဝရငြိမ်းချမ်းရေး ဖော်ဆောင်နိုင်ရေး နိုင်ငံရေးနည်းလမ်းဖြင့် ဆက်လက် | |



| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | တွေ့ဆုံဆွေးနွေးနိုင်ရန်နှင့် စစ်မက်အရှိန်များ လျှော့ချနိုင်ရန်အတွက် ကြေညာချက်တစ်ရပ် ထုတ်ပြန်ခဲ့သည်။ | |
| ၃။ | ၈-၃-၂၀၁၂ | **ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့ခေါင်းဆောင် ဦးအောင်သောင်း ဦးဆောင်သောအဖွဲ့နှင့် KIO ဗဟို ကိုယ်စားလှယ်အဖွဲ့ခေါင်းဆောင် ဦးဆွမ်လွတ်ဂမ် ဦးဆောင်သော အဖွဲ့ဝင်များ တတိယအကြိမ်မြောက် ပြည်ထောင်စုအဆင့် တွေ့ဆုံဆွေးနွေးပွဲ ကျင်းပပြီး နှစ်ဦးနှစ်ဖက်သဘောတူကြေညာချက် ထုတ်ပြန်**<br>ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့နှင့် KIO ဗဟိုကိုယ်စားလှယ်အဖွဲ့တို့သည် မတ် ၈ ရက် နေ့ခင်းပိုင်းမှ မတ် ၁၀ ရက် ညနေပိုင်းအထိ တရုတ်ပြည်သူ့သမ္မတနိုင်ငံ ရွှေလီမြို့ ကျင်းချိန်ဟိုတယ်၌ တတိယအကြိမ်မြောက် ပြည်ထောင်စုအဆင့် တွေ့ဆုံဆွေးနွေးမှုများ ပြုလုပ်ခဲ့သည်။<br>အဆိုပါ တွေ့ဆုံဆွေးနွေးပွဲသို့ ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့ဘက်မှ အဖွဲ့ခေါင်းဆောင် တောင်သာမြို့နယ် ပြည်သူ့လွှတ်တော် ကိုယ်စားလှယ် ဦးအောင်သောင်း၊ ဒုတိယအဖွဲ့ခေါင်းဆောင် မြစ်ကြီးနားမြို့နယ် ပြည်သူ့လွှတ်တော် ကိုယ်စားလှယ် ဦးသိန်ဇော်နှင့် အဖွဲ့ဝင်များ တက်ရောက်ကြပြီး KIO ကိုယ်စားလှယ်အဖွဲ့ဘက်မှ အဖွဲ့ခေါင်းဆောင် ဗဟိုကော်မတီ | |

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
| --- | --- | --- | --- |
| | | ဝင် ဦးဆွမ်လွတ်ဂမ်၊ အဖွဲ့ဝင်ဗဟိုကော်မတီဝင်များဖြစ်ကြသော ဦးလဖိုင်လ၊ ဦးလဇိန်ဂျီးနောင်၊ ဦးခွန်နောင်၊ ဦးနော်ဘူ၊ ဦးနော်တွဲ၊ ဦးမရန်ဇော်တောင်၊ ဦးဆင်းခေါတို့ တက်ရောက်ကြသည်။<br>ယခု တတိယအကြိမ်မြောက် ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး တွေ့ဆုံဆွေးနွေးပွဲတွင် ဇန်နဝါရီ ၁၉ ရက်က ပြုလုပ်ခဲ့သော ဒုတိယအကြိမ် ပြည်ထောင်စုအဆင့် တွေ့ဆုံဆွေးနွေးပွဲ၌ ဆွေးနွေးညှိနှိုင်းခဲ့သော အချက်များအပေါ် အခြေခံ၍ ရင်းနှီးပွင့်လင်းစွာ ဆွေးနွေးခဲ့ကြသည်။ ဆွေးနွေးပွဲ တတိယနေ့၌ ပထမနေ့နှင့် ဒုတိယနေ့ ဆွေးနွေးချက်များအပေါ် အခြေခံပြီး ပွင့်လင်းရင်းနှီးစွာဆက်လက် ဆွေးနွေးညှိနှိုင်းကြသည်။<br>ထိုသို့ ငြိမ်းချမ်းရေးအတွက် အချိန်ယူ၍ အသေးစိတ်ဆွေးနွေးပြီးနောက် အချက် (၅) ချက်ပါ နှစ်ဦးနှစ်ဖက်သဘောတူ ထုတ်ပြန်ကြေညာချက်တစ်ရပ်ကို ထုတ်ပြန်ခဲ့သည်။ | |



| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
| --- | --- | --- | --- |
| ၄။ | ၃၀-၁၀-၂၀၁၂ | **ကချင်ပြည်နယ်အတွင်း ဆက်သွယ်ရေးလမ်းကြောင်းများ ပြင်ဆင်တည်ဆောက်ရေး ပြည်သူများအေးချမ်းသာယာမှုရှိစေရေးနှင့် ငြိမ်းချမ်းရေးဆိုင်ရာကိစ္စရပ်များ ဆွေးနွေး**<br>လုပ်ငန်းကော်မတီ ဒုတိယဥက္ကဋ္ဌ ဦးအောင်မင်း ဦးစီးသောအဖွဲ့နှင့် ကချင်တိုင်းရင်းသားများ ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့ခေါင်းဆောင် ဦးဆွမ်လွတ်ဂမ် ဦးစီးသောအဖွဲ့တို့သည် အောက်တိုဘာ ၃၀ ရက်တွင် တရုတ်ပြည်သူ့သမ္မတနိုင်ငံ ရွှေလီမြို့ဂျင်ချန်းဟိုတယ်၌ တွေ့ဆုံပြီး ကချင်ပြည်နယ် ငြိမ်းချမ်းရေးဖော်ဆောင်ရေးကိစ္စရပ်များကို ဆွေးနွေးခဲ့ကြသည်။<br>အစည်းအဝေး၌ နိုင်ငံရေးဆွေးနွေးပွဲကို ၂၀၁၂ ခုနှစ် နိုဝင်ဘာလတွင် ပြန်လည်ပြုလုပ်ရန်၊ ကချင်ပြည်နယ်အတွင်း ဆက်သွယ်ရေးလမ်းကြောင်းများ ပြင်ဆင်တည်ဆောက်ရေး၊ ပြည်သူများ အေးချမ်းသာယာမှုရှိစေရေးနှင့် ငြိမ်းချမ်းရေးဆိုင်ရာကိစ္စရပ်များ နှစ်ဖက်ဆက်လက်ဆောင်ရွက်ကြရန်တို့ကို ဆွေးနွေးခဲ့ကြသည်။ | |

**RCSS / SSA နှင့် ငြိမ်းချမ်းရေးဆွေးနွေးမှုများ**

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၁။ | ၂-၁၂-၂၀၁၁ | **ငြိမ်းချမ်းရေးတည်ဆောက်ရန်အတွက် ပြည်နယ်အဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေး အဖွဲ့နှင့်RCSS/SSAငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့တို့ ပဏာမသဘောတူညီချက် လက်မှတ်ရေးထိုး**<br>ပြည်နယ်အဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေး အဖွဲ့နှင့် RCSS/SSA ငြိမ်းချမ်းရေးဆွေးနွေး ရေးအဖွဲ့တို့ ပဏာမ သဘောတူညီချက် လက်မှတ်ရေးထိုးခဲ့ပါသည်။ ဆွေးနွေးပွဲကို ရှမ်းပြည်နယ်၊ တောင်ကြီး ဟိုတယ်၌ကျင်းပရာ ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့ခေါင်းဆောင် ရထားပို့ဆောင်ရေး ဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဦးအောင်မင်း၊ အမှတ်(၂)လျှပ်စစ် စွမ်းအားဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဦးခင်မောင်စိုး၊ ရှမ်းပြည်နယ်ဝန်ကြီးချုပ် ဦးစဝ်အောင်မြတ်၊ ပြည်နယ်လုံခြုံရေးနှင့် နယ်စပ်ရေးရာ ဝန်ကြီးဌာန ဝန်ကြီး၊ ဗိုလ်မှူးကြီးအောင်သူ။ တြိဂံဒေသတိုင်း စစ်ဌာနချုပ် စစ်ဦးစီးမှူး (ပထမတန်း) ဒုတိယဗိုလ်မှူးကြီး ဇော်ထွန်းမြင့်၊ ပြည်နယ် ဥပဒေချုပ် ဦးမောင်မောင်နှင့် တာဝန်ရှိ ပုဂ္ဂိုလ်များ၊ RCSS / SSA ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့မှ ဦးစိုင်းလူး၊ ရှမ်းပြည်တပ်မတော်မှ ဦးဆောင်သည့် အဖွဲ့ဝင်များ တက်ရောက်ကြသည်။ ထို့နောက် ပဏာမ သဘောတူညီချက်အချို့အား လက်မှတ်ရေးထိုးခဲ့ကြပြီး ပဏာမ သဘောတူညီချက်စာချုပ်အား အပြန်အလှန် လဲလှယ်ခဲ့ကြသည်။ | |



| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၂။ | ၁၆-၁-၂၀၁၂ | **ငြိမ်းချမ်းရေးတည်ဆောက်ရန်အတွက် ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့နှင့် RCSS/SSA ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့တို့ တွေ့ဆုံဆွေးနွေး ပဏာမဆောင်ရွက်ရန် သဘောတူညီချက် (၁၁)ချက်ကို လက်မှတ်ရေးထိုး**<br>ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အစိုးရ၏ ငြိမ်းချမ်းရေးဖိတ်ခေါ်ချက်အရ ငြိမ်းချမ်းရေးတည်ဆောက်ရန်အတွက် ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့နှင့် RCSS/SSA ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့တို့ နယ်မြေပိုင်းခြားသတ်မှတ်ရေး၊ စီးပွားရေးနှင့် ဆက်ဆံရေးရုံးများဖွင့်လှစ်ရေးကိစ္စနှင့်ပတ်သက်၍ ဇန်နဝါရီ ၁၆ ရက် နံနက် ၉ နာရီတွင် ရှမ်းပြည်နယ်အစိုးရအဖွဲ့ရုံး တောင်ကြီးမြို့၌ ကျင်းပသည်။<br>ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့မှ ရထားပို့ဆောင်ရေး ဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဦးအောင်မင်း ခေါင်းဆောင်သောအဖွဲ့နှင့် RCSS/SSA ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့မှ ဦးစိုင်းဘောင်ခေး ဦးဆောင်သည့် အဖွဲ့ဝင်များ တက်ရောက်ကြသည်။ ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့မှ ပြည်ထောင်စုဝန်ကြီး ဦးအောင်မင်းက အမှာစကားပြောကြားပြီး ပြည်ထောင်စုဝန်ကြီး ဦးဝင်းထွန်းက စီးပွားရေးကဏ္ဍအခြေအနေကိုလည်းကောင်း၊ ပြည်ထောင်စုဝန်ကြီး | |

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | ဦးခင်မောင်စိုးက အခြေပြုနေထိုင်ရန် နယ်မြေပိုင်းခြား သတ်မှတ်ရေးနှင့် ဆက်ဆံရေးရုံးများ ဖွင့်လှစ်မည့် အခြေအနေကိုလည်းကောင်း ဆွေးနွေးပြောကြားကြသည်။<br>RCSS/SSA ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့မှ ဦးစိုင်းဘောင်ခေးက အခြေပြုနေထိုင်ရန် နယ်မြေပိုင်းခြား သတ်မှတ်ရေးနှင့်ပတ်သက်၍ ဆွေးနွေးပြောကြားပြီး ပြည်ထောင်စုဝန်ကြီး ဦးအောင်မင်းက ဆွေးနွေးတင်ပြချက်များအပေါ် ဆောင်ရွက်ပေးသွားမည်ဖြစ်ကြောင်း ပြောကြားသည်။ ထို့နောက် ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့နှင့် RCSS/SSA ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့တို့သည် ပဏာမဆောင်ရွက်ရန် သဘောတူညီချက် (၁၁)ချက်ကို လက်မှတ်ရေးထိုးကြသည်။ | |
| ၃။ | ၁၉-၅-၂၀၁၂ | **ပြည်ထောင်စုငြိမ်းချမ်းရေး ဖော်ဆောင်ရေးလုပ်ငန်းကော်မတီနှင့် ရှမ်းပြည်ပြန်လည်ထူထောင်ရေးကောင်စီ/ ရှမ်းပြည်တပ်မတော်(RCSS/SSA)တို့၏ ဒုတိယအကြိမ် ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဖော်ဆောင်ရေး ဆွေးနွေးပွဲကျင်းပ**<br>ပြည်ထောင်စုငြိမ်းချမ်းရေးဖော်ဆောင်ရေး လုပ်ငန်းကော်မတီနှင့် ရှမ်းပြည်ပြန်လည်ထူထောင်ရေးကောင်စီ/ ရှမ်းပြည်တပ်မတော် (RCSS/ SSA) တို့၏ ဒုတိယအကြိမ် | |



| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဖော်ဆောင်ရေးဆွေးနွေးပွဲကို မေ ၁၉ ရက် နံနက်ပိုင်းတွင် တြိဂံဒေသတိုင်းစစ်ဌာနချုပ် ရွှေတြိဂံရိပ်သာ၌ကျင်းပရာ ပြည်ထောင်စုငြိမ်းချမ်းရေးဖော်ဆောင်ရေး လုပ်ငန်းကော်မတီ ဒုတိယဥက္ကဋ္ဌများ ဖြစ်ကြသော ဒုတိယတပ်မတော် ကာကွယ်ရေးဦးစီးချုပ် ကာကွယ်ရေးဦးစီးချုပ် (ကြည်း) ဗိုလ်ချုပ်ကြီးစိုးဝင်းနှင့် ရထားပို့ဆောင်ရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီးဦးအောင်မင်းတို့နှင့်အတူ အဖွဲ့ဝင်များနှင့် ရှမ်းပြည် ပြန်လည်ထူထောင်ရေးကောင်စီ/ ရှမ်းပြည်တပ်မတော် (RCSS/ SSA) အဖွဲ့မှ ရှမ်းပြည်ပြန်လည်ထူထောင်ရေးကောင်စီဥက္ကဋ္ဌ ဦးယွက်စစ်နှင့်အတူ တာဝန်ရှိသူများ တက်ရောက်ကြသည်။<br>ထို့နောက် နှစ်ဖက်အဖွဲ့ခေါင်းဆောင်များနှင့် အဖွဲ့ဝင်များသည် နှစ်ဦးနှစ်ဖက် သဘောတူညီချက်များအား လက်မှတ်ရေးထိုး၍ စာချုပ်ချုပ်ဆိုကာ အပြန်အလှန်လဲလှယ်ကြပြီး ညနေပိုင်းတွင် ဆွေးနွေးပွဲ အောင်မြင်စွာ ပြီးမြောက်ခဲ့သည်။ | |

**SSA-S နှင့် ငြိမ်းချမ်းရေးဆွေးနွေးမှုများ**

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၁။ | ၁-၁-၂၀၁၂ | **SSAတောင်ပိုင်းနှင့် အစိုးရကိုယ်စားလှယ် ထပ်မံတွေ့ဆုံ** အမှတ်(၂)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဦးခင်မောင်စိုး၊ ရထားပို့ဆောင်ရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဦးအောင်မင်းတို့ ပါဝင်သည့် ငြိမ်းချမ်းရေးအဖွဲ့နှင့် ရှမ်းပြည်တပ်မတော်တောင်ပိုင်း SSA -S တို့ တောင်ကြီးမြို့တွင် တွေ့ဆုံပြီး ၂၀၁၂ခုနှစ်၊ ဇန်နဝါရီလ တတိယပတ်တွင် ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရန် သဘောတူညီခဲ့ကြသည်။ | |



**SSPP / SSA နှင့် ငြိမ်းချမ်းရေးဆွေးနွေးမှုများ**

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၁။ | ၂၈-၁-၂၀၁၂ | **ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့နှင့် ရှမ်းပြည်နယ် တိုးတက်ရေးပါတီ၊ ရှမ်းပြည်တပ်မတော် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့ တွေ့ဆုံဆွေးနွေးပြီး သဘောတူညီချက်များလက်မှတ်ရေးထိုး** ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့ခေါင်းဆောင် တောင်သာမြို့နယ် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ် ဦးအောင်သောင်း၊ ဒုတိယ အဖွဲ့ခေါင်းဆောင် မြစ်ကြီးနားမြို့နယ် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ် ဦးသိန်းဇော်နှင့် အဖွဲ့ဝင်များနှင့် ရှမ်းပြည်နယ်တိုးတက်ရေးပါတီ၊ ရှမ်းပြည်တပ်မတော် ငြိမ်းချမ်းရေးဆွေးနွေးရေး အဖွဲ့ခေါင်းဆောင် ပါတီဗဟိုကော်မတီ ဒုတိယအထွေထွေအတွင်းရေးမှူးချုပ် စဝ်ခေးတိုင်းနှင့် ပါတီဗဟိုကော်မတီဝင်များသည် ဒေသတွင်း ငြိမ်းချမ်းရေးတည်ဆောက်ရေးအတွက် ဇန်နဝါရီ ၂၈ ရက်တွင် ရှမ်းပြည်နယ် (တောင်ပိုင်း) တောင်ကြီးမြို့၌ တွေ့ဆုံဆွေးနွေးပွဲ ပြုလုပ်ကြသည်။ ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့ခေါင်းဆောင် ဦးအောင်သောင်းခေါင်းဆောင်သော အဖွဲ့ဝင် (၆) ဦးနှင့် ရှမ်းပြည်နယ်တိုးတက်ရေးပါတီ/ ရှမ်းပြည်တပ်မတော် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့ခေါင်းဆောင် စဝ်ခေးတိုင်း ခေါင်းဆောင်သော အဖွဲ့ဝင် (၆) ဦးတို့သည် သဘောတူညီ | |

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | ချက် (၅) ချက်ကို လက်မှတ်ရေးထိုးပြီး အဖွဲ့ခေါင်းဆောင်များ အပြန်အလှန် လဲလှယ်ကြသည်။ | |
| ၂။ | ၁၀-၁၀-၂၀၁၂ | **ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့နှင့် ရှမ်းပြည်တိုးတက်ရေးပါတီ (SSPP) ငြိမ်းချမ်းရေးအဖွဲ့တို့၏ သဘောတူညီချက်များ လက်တွေ့အကောင်အထည်ဖော်ဆောင်ရေးညှိနှိုင်းဆွေးနွေး**<br>နိုင်ငံသားတစ်ဦးသည် မိမိ၏နိုင်ငံသားအခွင့်အရေးကို အပြည့်အဝရရှိစေချင်ကြကြောင်း၊ တိုင်းရင်းသားများ တန်းတူအခွင့်အရေးရရှိအောင် မိမိတို့ လာရောက်ခြင်းဖြစ်ကြောင်း၊ ငြိမ်းချမ်းရေးဖော်ဆောင်မှုဆွေးနွေးပွဲရလဒ်များကို အောက်ခြေအဆင့်အထိ သိရှိနားလည်ရန် လိုအပ်ကြောင်းဖြင့် ပြည်ထောင်စုငြိမ်းချမ်းရေး ဖော်ဆောင်ရေးလုပ်ငန်းကော်မတီ ဒုတိယဥက္ကဋ္ဌ ဦးအောင်မင်းက ယမန်နေ့ မွန်းလွဲ ၁ နာရီခွဲတွင် ရှမ်းပြည်နယ်၊ လားရှိုးမြို့၊ ရွှေလီရတနာခန်းမ၌ ကျင်းပသည့် ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့နှင့် ရှမ်းပြည်တိုးတက်ရေးပါတီ (SSPP) ငြိမ်းချမ်းရေးအဖွဲ့တို့၏ သဘောတူညီချက်များ လက်တွေ့အကောင်အထည်ဖော်ဆောင်ရေး ညှိနှိုင်းဆွေးနွေးပွဲတွင် ပြောကြားသည်။<br>ထို့အတူ ပြည်ထောင်စုငြိမ်းချမ်းရေး ဖော်ဆောင်ရေးလုပ်ငန်းကော်မတီ ဒုတိယ | |



| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | ဥက္ကဋ္ဌဦးသိန်းဇော်က တိုင်းပြည်အတွင်း တည်ငြိမ်မှု၊ အေးချမ်းမှုရရှိလာသည့်အတွက် အကြောင်းကြောင်းကြောင့် ထွက်ပြေးတိမ်းရှောင်နေကြသည့် တိုင်းရင်းသား ညီအစ်ကိုမောင်နှမများ ဥပဒေဘောင်အတွင်း ပြန်လည်နေထိုင် လုပ်ကိုင်နိုင်အောင် နိုင်ငံတော်က ဝိုင်းဝန်းပံ့ပိုးပေးသွားမည်ဖြစ်ကြောင်း၊ ပြန်လည်ထူထောင်ရေးလုပ်ငန်းများကို စနစ်တကျထိထိရောက်ရောက် ဆောင်ရွက်နိုင်ရန် ကော်မတီ၊ လုပ်ငန်းကော်မတီများ ဖွဲ့စည်းလုပ်ဆောင်သွားရန် လိုအပ်ကြောင်း၊ အဆိုပါလုပ်ငန်းများ အောင်မြင်စွာ ဆောင်ရွက်နိုင်ရန် အားလုံးဝိုင်းဝန်း ပူးပေါင်းဆောင်ရွက်သင့်ကြောင်းဖြင့် ပြောကြားသည်။<br>အလားတူ ရှမ်းပြည်တိုးတက်ရေးပါတီ (SSPP) မှ အထွေထွေအတွင်းရေးမှူးဦးခွန်ဆိုင်က မိမိတို့အနေဖြင့်ပြည်ထောင်စုမှ ရာသက်ပန်မခွဲထွက်ဘဲ၊ ထာဝရ ငြိမ်းချမ်းရေးရရှိသည်အထိ နောက်မလှည့်ဘဲ အတူလက်တွဲပူးပေါင်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ ထာဝရငြိမ်းချမ်းရေးရရှိအောင် စစ်မှန်သောပြည်ထောင်စုစိတ်ဓာတ်ကို အခြေခံ၍ ဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖြင့် ပြောကြားသည်။<br>ယင်းနောက် ပြည်နယ်ဝန်ကြီးချုပ်ဦးစဝ်အောင်မြတ်၊ တိုင်းမှူးများဖြစ်ကြသည့် ဗိုလ်မှူးချုပ်အောင်စိုး၊ ဗိုလ်မှူးချုပ်မင်းနောင်၊ ဒုတိယဝန်ကြီးများ ဖြစ်ကြသည့် ဗိုလ်ချုပ် | |

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | ဇော်ဝင်း၊ ဦးအုန်းသန်း၊ ဦးအေးမြင့်မောင်၊ ဒုတိယရှေ့နေချုပ် ဦးထွန်းထွန်းဦးနှင့် ရှမ်းပြည်တိုးတက်ရေးပါတီ (SSPP)/ ရှမ်းပြည်တပ်မတော် (SSA) ဗဟိုဦးစီးအဖွဲ့ဝင်များက ဒေသအတွင်း တည်ငြိမ်အေးချမ်းရေး၊ ပြန်လည်ထူထောင်ရေးလုပ်ငန်းများ ဆောင်ရွက်နိုင်ရန် ရင်းနှီးပွင့်လင်းစွာ အမြင်ချင်းဖလှယ်ဆွေးနွေးခဲ့ကြသည်။ | |



**CNF နှင့် ငြိမ်းချမ်းရေးဆွေးနွေးမှုများ**

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၁။ | ၆-၁-၂၀၁၂ | **ငြိမ်းချမ်းရေးဖော်ဆောင်နိုင်ရေး ပြည်နယ်အဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့နှင့် ချင်းအမျိုးသားတပ်ဦး (CNF) ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့တို့ ပဏာမသဘောတူညီချက် လက်မှတ်ရေးထိုး**<br>ငြိမ်းချမ်းရေးဖော်ဆောင်နိုင်ရေး ပြည်နယ်အဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေး ဖွဲ့နှင့် ချင်းအမျိုးသားတပ်ဦး(CNF) ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့တို့ ပဏာမသဘောတူညီချက် လက်မှတ်ရေးထိုးပွဲ အခမ်းအနားကို ၆-၁-၂၀၁၂ရက်နေ့တွင် ချင်းပြည်နယ် ပြည်ထောင်စုခန်းမတွင် ကျင်းပသည်။<br>အခမ်းအနားတွင် ပြည်ထောင်စုအဆင့် ဆွေးနွေးရေးအဖွဲ့ခေါင်းဆောင် ရထားပို့ဆောင်ရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဦးအောင်မင်းခေါင်းဆောင်သော အဖွဲ့ဝင်များနှင့် တာဝန်ရှိပုဂ္ဂိုလ်များ၊ ချင်းအမျိုးသားတပ်ဦး(CNF)ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့ခေါင်းဆောင် ဒေါက်တာရွှေခါးနှင့်အဖွဲ့တို့သည် ပဏာမဆောင်ရွက်ရန် သဘောတူညီချက်အချို့အား လက်မှတ်ရေးထိုးခဲ့ကြသည်။ | |

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၂။ | ၉-၅-၂၀၁၂ | **(CNF)ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့တို့တွေ့ဆုံဆွေးနွေး**<br>ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ၏ ငြိမ်းချမ်းရေး ဖိတ်ခေါ်ချက်အရ နိုင်ငံတော်အစိုးရထံသို့ ကမ်းလှမ်းလာသော ချင်းအမျိုးသားတပ်ဦး (CNF)နှင့် နိုင်ငံတော်အစိုးရအဖွဲ့၏ ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့တို့သည် မေ ၇ ရက်တွင် ဟားခါးမြို့ ပြည်ထောင်စုရိပ်သာ အစည်းအဝေးခန်းမ၌ ပြည်ထောင်စုအဆင့် တွေ့ဆုံဆွေးနွေးပွဲကို ကျင်းပရာ ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့မှ ပြည်ထောင်စုဝန်ကြီးများဖြစ်ကြသည့် ဦးအောင်မင်းဦးဆောင်သည့် အဖွဲ့ဝင်များနှင့် တာဝန်ရှိသူများ၊ ချင်းအမျိုးသားတပ်ဦး (CNF) ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့ ခေါင်းဆောင် ဒေါက်တာရွှေခါး ဦးဆောင်သည့် အဖွဲ့ဝင်များနှင့် နှစ်ဖက်အကျိုးတော်ဆောင်များ တက်ရောက်ကြသည်။<br>အဆိုပါအစည်းအဝေးတွင် ချင်းအမျိုးသားတပ်ဦး (CNF)က ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးပွဲသို့ ဆွေးနွေးရန် တင်ပြလာသည့်အချက် (၁၅) ချက်အား အပြန်အလှန် ညှိနှိုင်းဆွေးနွေးကြပြီးနောက် နှစ်ဖက်သဘောတူစာချုပ်များ လက်မှတ်ရေးထိုး၍ အပြန်အလှန်လဲလှယ်ကြသည်။ | |



| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၃။ | ၇-၁၂-၂၀၁၂ မှ ၉-၁၂-၂၀၁၂ ထိ | **ပြည်ထောင်စု ငြိမ်းချမ်းရေး ဖော်ဆောင်ရေးလုပ်ငန်းကော်မတီနှင့် ချင်းအမျိုးသားတပ်ဦးတို့၏ ဒုတိယအကြိမ် တွေ့ဆုံညှိနှိုင်းဆွေးနွေးပွဲကျင်းပ**<br>ပြည်ထောင်စုငြိမ်းချမ်းရေး ဖော်ဆောင်ရေးလုပ်ငန်းကော်မတီနှင့် ချင်းအမျိုးသားတပ်ဦးတို့၏ ဒုတိယအကြိမ် တွေ့ဆုံညှိနှိုင်းဆွေးနွေးပွဲကို ရန်ကုန်မြို့ ရွှေလီလမ်းရှိ Myanmar Peace Center ၌ ဒီဇင်ဘာ ၇ ရက်မှ ၉ ရက်အထိ နိုင်ငံတကာအကဲခတ်လေ့လာသူပုဂ္ဂိုလ်များ ရှေ့မှောက်၌ ပြုလုပ်ပြီး ချင်းအမျိုးသားတပ်ဦးဘက်မှ အဆိုပြုသည့် အချက် ၃၁ ချက်အနက် ၂၇ ချက်ကို သဘောတူညီမှုရရှိခဲ့ကာ ၄ ချက်ကို မှတ်တမ်းတင်၍ ဆက်လက်ဆွေးနွေးရန် သဘောတူညီခဲ့ကြသည်။<br>နိုင်ငံတော်သမ္မတ၏ လမ်းညွှန်ချက်ဖြစ်သည့် အပစ်အခတ်ရပ်စဲရေး၊ နိုင်ငံရေးဆွေးနွေးပွဲများပြုလုပ်ရေး၊ တိုင်းရင်းသားလူမျိုးအားလုံးပါဝင်သော ညီလာခံကြီးတစ်ရပ်ကျင်းပရေး ဆိုသည့် အချက်သုံးချက်အပေါ်၌ အခြေခံ၍ အဓိကဆွေးနွေးခဲ့ကြသည်။<br>ငြိမ်းချမ်းရေးဖော်ဆောင်ရေးလုပ်ငန်းကော်မတီနှင့် ချင်းအမျိုးသားတပ်ဦးတို့သည် ပြည်ထောင်စုတည်ဆောက်ရေးကို အန္တိမရည်မှန်းချက်အဖြစ်ထားရှိ၍ ပြည်ထောင်စုမပြိုကွဲရေး၊ တိုင်းရင်းသားစည်းလုံးညီညွတ်မှုမပြိုကွဲရေး၊ အချုပ်အခြာအာဏာ တည်တံ့ | |

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | ခိုင်မြဲရေးတို့အပြင် ဒီမိုကရေစီထွန်းကားရေး၊ တန်းတူညီမျှရေးနှင့် ကိုယ်ပိုင်ပြဋ္ဌာန်းခွင့်တို့ အာခံချက်ပေးသည့်အချက်များကို အခြေခံမှုများအဖြစ် ထပ်လောင်းအတည်ပြုကြသည်။<br>ဒီဇင်ဘာ ၉ ရက်တွင် အပြီးသတ်လက်မှတ်ရေးထိုးခဲ့သည့် အချက် ၂၇ ချက်တွင် ချင်းအမျိုးသားရေးဆိုင်ရာ သဘောတူညီချက်များအဖြစ် ချင်းအမျိုးသားနေ့ သတ်မှတ်ရေး၊ ချင်းပြည်နယ်နေ့ သတ်မှတ်ရေးတို့ကို ဆက်လက်ဆောင်ရွက်ရန် သဘောတူညီခဲ့ကြသည်။<br>ထို့ပြင် အမျိုးသားပြန်လည်သင့်မြတ်ရေး၊ လူ့အခွင့်အရေးနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး၊ စစ်ရေးဆိုင်ရာကိစ္စများနှင့် ချင်းပြည်နယ်ဖွံ့ဖြိုးတိုးတက်မှုကိစ္စရပ်များနှင့် လူမှုရေးနှင့် ယဉ်ကျေးမှုဆိုင်ရာ ကိစ္စရပ်များတွင် ပြည်ထောင်စုအစိုးရ၊ ပြည်နယ်အစိုးရနှင့် ချင်းအမျိုးသားတပ်ဦးတို့ ပူးပေါင်းဆောင်ရွက်ကြရန်လည်း သဘောတူညီခဲ့ကြသည်။<br>တစ်နိုင်ငံလုံးအတိုင်းအတာဖြင့် အပစ်အခတ်ရပ်စဲရေး ဆွေးနွေးရာတွင် ကချင်ပြည်နယ်ကိစ္စကိုလည်း ထည့်သွင်းဆွေးနွေးခဲ့ကြပြီး ပြည်ထောင်စုအစိုးရအနေဖြင့် ကချင်ပြည်နယ်တွင် အပစ်အခတ်ရပ်စဲရေးနှင့် ငြိမ်းချမ်းရေးများရရှိရန် အလေးအနက်ထားရှိကြောင်း၊ ချင်းအမျိုးသားတပ်ဦး | |



| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | အထွေထွေအတွင်းရေးမှူးချုပ် Pu Zing Cung က သတင်းစာရှင်းလင်းပွဲတွင် ထုတ်ဖော် ပြောဆိုခဲ့သည်။ | |

## KNU/KNLA နှင့် ငြိမ်းချမ်းရေးဆွေးနွေးမှုများ

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၁။ | ၁၂-၁-၂၀၁၂ | **ငြိမ်းချမ်းရေးတည်ဆောက်ရန်အတွက် ပြည်နယ်အဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့နှင့် ကရင်အမျိုးသား အစည်းအရုံး(KNU)ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့တို့ ပဏာမသဘောတူညီချက် လက်မှတ်ရေးထိုး**<br>ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အစိုးရ၏ ငြိမ်းချမ်းရေးဖိတ်ခေါ်ချက်အရ နိုင်ငံတော်အစိုးရသို့ ကမ်းလှမ်းလာသော ကရင်အမျိုးသားအစည်းအရုံး(KNU)နှင့် ငြိမ်းချမ်းရေးတည်ဆောက်ရန်အတွက် ကရင်ပြည်နယ်အစိုးရအဖွဲ့မှ ပြည်နယ်အဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့နှင့် ကရင်အမျိုးသားအစည်းအရုံး(KNU) ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့တို့၏ ပဏာမသဘောတူညီ လက်မှတ်ရေးထိုးပွဲကို ကရင်ပြည်နယ် ဘားအံမြို့ ဇွဲကပင်ဟိုတယ်၌ ဇန်နဝါရီလ ၁၂ ရက် နံနက် ၉ နာရီတွင် ကျင်းပရာ ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့မှ ရထားပို့ဆောင်ရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဦးအောင်မင်း၊ စက်မှုဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဦးစိုးသိန်း၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဦးခင်ရီတို့ ဦးဆောင်သည့် အဖွဲ့ဝင်များနှင့် တာဝန်ရှိသူများ၊ ကရင်အမျိုးသားအစည်းအရုံး | |



| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | (KNU) ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့မှ ဗိုလ်ချုပ်ကြီးစောမူတူးစေးဖိုးနှင့် ဖဒိုစောဒေးဗစ်ထောတို့ ဦးဆောင်သည့်အဖွဲ့ဝင်များ တက်ရောက်ကြသည်။<br>လက်မှတ်ရေးထိုးပွဲတွင် ပြည်နယ်အဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့နှင့် ကရင်အမျိုးသားအစည်းအရုံး(KNU) ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့တို့သည် ပဏာမဆောင်ရွက်ရန် သဘောတူညီချက် (၅)ချက်နှင့် ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးပွဲတွင် ဆက်လက်ဆွေးနွေးရန်မှုအားဖြင့် သဘောတူညီသည့် အချက် (၁၁)ချက်အား ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့မှ ပြည်ထောင်စုဝန်ကြီး ဦးအောင်မင်း၊ ပြည်ထောင်စုဝန်ကြီး ဦးစိုးသိန်း၊ ပြည်ထောင်စုဝန်ကြီး ဦးခင်ရီ၊ ပြည်နယ်ဝန်ကြီးချုပ် ဦးဇော်မင်းတို့၏ ရှေ့မှောက်၌ လက်မှတ်ရေးထိုးကြပြီး အမှတ်တရ လက်ဆောင်များ ပေးအပ်သည်။<br>ထို့နောက် ပြည်နယ်လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန ဝန်ကြီး ဗိုလ်မှူးကြီးအောင်လွင်နှင့် ကရင်အမျိုးသားအစည်းအရုံး(KNU) ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့မှ ဗိုလ်မှူးချုပ် စောဂျော်နီတို့သည် ပြည်နယ်အဆင့် ပဏာမသဘောတူညီမှုစာချုပ်ကို လက်မှတ်ရေးထိုးကြပြီးနောက် အပြန်အလှန် လဲလှယ်ကြသည်။<br>ယင်းနောက် ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့မှ ရထားပို့ | |

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | ဆောင်ရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဦးအောင်မင်းနှင့် ကရင်အမျိုးသားအစည်းအရုံး(KNU) ငြိမ်းချမ်းရေး ဖော်ဆောင်ရေး ဗဟိုကော်မတီ ဒုတိယဥက္ကဋ္ဌ ဗိုလ်ချုပ်ကြီး စောမူတူးစေးဖိုးတို့သည် ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးတည်ဆောက်ရန်အတွက် ပဏာမသဘောတူညီချက် (၁၁) ချက်ကို လက်မှတ်ရေးထိုးကာ အပြန်အလှန်လဲလှယ်ကြသည်။ | |
| ၂။ | ၇-၂-၂၀၁၂ | **ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့ခေါင်းဆောင် ဦးအောင်သောင်းနှင့်ဒုတိယအဖွဲ့ခေါင်းဆောင် ဦးသိန်းဇော်တို့ကြီးကြပ်၍ ကရင်ပြည်နယ် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့နှင့် KNU/KNLA ငြိမ်းချမ်းရေးကောင်စီတို့ တွေ့ဆုံဆွေးနွေးပြီး ပဏာမနှစ်ဖက်သဘောတူညီချက် လက်မှတ်ရေးထိုး**<br>ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့ခေါင်းဆောင် တောင်သာမြို့နယ် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ် ဦးအောင်သောင်း၊ ဒုတိယအဖွဲ့ခေါင်းဆောင် မြစ်ကြီးနားမြို့နယ် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ် ဦးသိန်းဇော်နှင့် အဖွဲ့ဝင်များကြီးကြပ်၍ ကရင်ပြည်နယ် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့နှင့် KNU, KNLA ငြိမ်းချမ်းရေးကောင်စီဥက္ကဋ္ဌ ဦးစောဌေးမောင်(ခ) ဦးထိန်မောင် ဦးဆောင်သော ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့တို့သည် ၇-၂-၂၀၁၂ | |



| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | ရက်နေ့တွင် နေပြည်တော်၌ ငြိမ်းချမ်းရေး တွေ့ဆုံဆွေးနွေးပွဲကို ရင်းနှီးပွင့်လင်းစွာ ပြုလုပ်ကြသည်။<br>တွေ့ဆုံဆွေးနွေးပွဲတွင် ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့ခေါင်းဆောင် ဦးအောင်သောင်း ဦးဆောင်သောအဖွဲ့ဝင်များနှင့် ငြိမ်းချမ်းရေး အကျိုးဆောင်အဖွဲ့ဝင် ဦးစောခင်စိုးတို့ တက်ရောက်ကြပြီး KNU/ KNLA ငြိမ်းချမ်းရေးကောင်စီဥက္ကဋ္ဌ ဦးစောဌေးမောင် (ခ) ဦးထိန်မောင်၊ ဗဟိုကော်မတီဝင်များဖြစ်ကြသော ဒေါက်တာတီမသီ၊ ဦးစောရင်နု၊ ဒေါက်တာနော်ကပေါ်ထူး၊ ဦးစောအယ်ကော်ထူး၊ ဦးစောဂျိုးဇက်၊ သိက္ခာတော်ရဆရာ ဒေါက်တာစောအောင်သန်းနှစ်၊ နော်ခရင်းနာတို့ တက်ရောက်ကြသည်။ ဆွေးနွေးပွဲတွင် နှစ်ဖက်ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့ဝင်များသည် ခင်မင်ရင်းနှီးပွင့်လင်းစွာ တွေ့ဆုံညှိနှိုင်းကြပြီး နှစ်ဦးနှစ်ဖက် သဘောတူညီချက် (၇) ချက်ကို လက်မှတ်ရေးထိုးကာ အပြန်အလှန် လဲလှယ်ကြသည်။ | |
| ၃။ | ၄-၄-၂၀၁၂ | **ကရင်ပြည်နယ် ပြည်နယ်အဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့နှင့် ကရင်အမျိုးသားအစည်းအရုံး (KNU) ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့တို့ တွေ့ဆုံဆွေးနွေး**<br>ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အစိုးရ၏ ငြိမ်းချမ်းရေး ဖိတ်ခေါ်ချက်အရ နိုင်ငံတော်အစိုးရသို့ ကမ်းလှမ်းလာသော | |

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | ကရင်အမျိုးသားအစည်းအရုံး (KNU) နှင့် ကရင်ပြည်နယ်အစိုးရဖွဲ့မှ ပြည်နယ်အဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့တို့သည် ငြိမ်းချမ်းရေး ဆက်လက်ဖော်ဆောင်ရေးကိစ္စ တွေ့ဆုံဆွေးနွေးရန်အတွက် ကရင်ပြည်နယ် ဘားအံမြို့ရှိဟိုတယ် ဇွဲကပင်သို့ ဧပြီ ၄ ရက် မွန်းလွဲပိုင်းတွင် ရောက်ရှိလာကြသည်။<br>ဆက်လက်၍ ကရင်ပြည်နယ် ဘားအံမြို့ရှိ ဟိုတယ်ဇွဲကပင်ခန်းမ၌ ငြိမ်းချမ်းရေး ဆက်လက်ဖော်ဆောင်နိုင်ရေးကိစ္စ တွေ့ဆုံဆွေးနွေးပွဲကိုကျင်းပရာ ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့မှ ပြည်ထောင်စုဝန်ကြီး ဦးအောင်မင်း ဦးဆောင်သောအဖွဲ့ဝင်များနှင့် တာဝန်ရှိသူများ၊ ကရင်အမျိုးသားအစည်းအရုံး(KNU) ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့မှ အထွေထွေအတွင်းရေးမှူးချုပ် နော်စီဖိုးရာစိန်နှင့် ဗိုလ်ချုပ်ကြီး စောမူတူးစေးဖိုး ဦးဆောင်သည့်အဖွဲ့များနှင့် နှစ်ဖက်အကျိုးတော်ဆောင်များ တက်ရောက်ကြသည်။<br>အဆိုပါဆွေးနွေးပွဲတွင် အပစ်အခတ်ရပ်စဲရေး ရေရှည်တည်တံ့ခိုင်မြဲနိုင်ရေး၊ ဆက်ဆံရေးရုံးများ ထားရှိဖွင့်လှစ်နိုင်ရေးတို့နှင့်ပတ်သက်၍ အပြန်အလှန်ညှိနှိုင်းဆွေးနွေးခဲ့ကြသည်။ | |



| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၄။ | ၅-၄-၂၀၁၂ | **ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့နှင့် ကရင်အမျိုးသား အစည်းအရုံး (KNU) ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့တို့ တွေ့ဆုံဆွေးနွေးပွဲ ကျင်းပ**<br>ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အစိုးရ၏ ငြိမ်းချမ်းရေးဖိတ်ခေါ်ချက်အရ နိုင်ငံတော်အစိုးရအဖွဲ့သို့ ကမ်းလှမ်းလာသော ကရင်အမျိုးသားအစည်းအရုံး (KNU)နှင့် နိုင်ငံတော်အစိုးရအဖွဲ့မှ ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့တို့သည် ငြိမ်းချမ်းရေး ဆက်လက်ဖော်ဆောင်နိုင်ရေး ကိစ္စဆွေးနွေးပွဲ တက်ရောက်ရန် ဧပြီ ၅ ရက်တွင် ရန်ကုန်မြို့ ဆီဒိုးနားဟိုတယ်သို့ ရောက်ရှိလာကြသည်။<br>ထို့နောက် ဧပြီ ၆ ရက်တွင် ရန်ကုန်မြို့ ဆီဒိုးနားဟိုတယ်၌ ပြည်ထောင်စုအဆင့် တွေ့ဆုံဆွေးနွေးပွဲကို ကျင်းပရာ ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့မှ ပြည်ထောင်စုဝန်ကြီး ဦးအောင်မင်း ဦးဆောင်သောအဖွဲ့ဝင်များနှင့် တာဝန်ရှိသူများ၊ ကရင်အမျိုးသားအစည်းအရုံး (KNU) ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့မှ အထွေထွေအတွင်းရေးမှူးချုပ် နော်စီဖိုးရာစိန်နှင့် ဗိုလ်ချုပ်ကြီး စောမူတူးစေးဖိုးတို့ ဦးဆောင်သည့်အဖွဲ့ဝင်များနှင့် နှစ်ဖက်အကျိုးတော်ဆောင်များ တက်ရောက်ကြသည်။<br>အဆိုပါ အစည်းအဝေးတွင် နှစ်ဖက်အဖွဲ့ဝင်များသည် အပစ်အခတ်ရပ်စဲရေး | |

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | ရေရှည်တည်တံ့ ခိုင်မြဲနိုင်ရေး၊ ဆက်ဆံရေးရုံးများ ထားရှိဖွင့်လှစ်နိုင်ရေး၊ ၂၀၁၂ ခုနှစ် ဇန်နဝါရီ ၁၂ ရက်က ကရင်အမျိုးသားအစည်းအရုံး (KNU) မှ ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးပွဲတွင် ဆက်လက်ဆွေးနွေးရန် တင်ပြထားသည့်အချက် (၁၁) ချက်အနက်မှ (၆) ချက်အား အပြန်အလှန် ညှိနှိုင်းဆွေးနွေးခဲ့ကြသည်။ | |
| ၅။ | ၁၀-၄-၂၀၁၂ | **ထားဝယ်မြို့၌ KNU မြိတ်/ထားဝယ်ခရိုင်နှင့် တပ်မဟာ (၄) ဆက်ဆံရေးရုံး ဖွင့်လှစ် ငြိမ်းချမ်းရေးလုပ်ငန်းများ ဆက်လက်အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရေး ညှိနှိုင်းဆွေးနွေး**<br>တနင်္သာရီတိုင်းဒေသကြီး ထားဝယ်မြို့၌ ဧပြီ ၁၀ ရက် နံနက်ပိုင်းတွင် ကရင်အမျိုးသားအစည်းအရုံး KNU ၏ မြိတ်/ထားဝယ်ခရိုင်နှင့် တပ်မဟာ (၄) ဆက်ဆံရေးရုံး ဖွင့်ပွဲအခမ်းအနားကျင်းပရာ ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့မှ ပြည်ထောင်စုဝန်ကြီး ဦးဇော်မင်း၊ တိုင်းဒေသကြီးဝန်ကြီးချုပ် ဦးမြတ်ကိုနှင့် တိုင်းမှူး ဗိုလ်ချုပ်ခင်မောင်ဌေး၊ KNU မြိတ်/ထားဝယ်ခရိုင် ဥက္ကဋ္ဌ KNU ဗဟိုအမြဲတမ်းကော်မတီဝင် ဖဒိုစောကွယ်ထူးဝင်းနှင့် အဖွဲ့ဝင်များ၊ တာဝန်ရှိသူများ တက်ရောက်ကြသည်။<br>အခမ်းအနားတွင် တိုင်းဒေသကြီးဝန်ကြီးချုပ် ဦးမြတ်ကို၊ KNU မြိတ်/ ထားဝယ် | |



| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | ခရိုင်ဥက္ကဋ္ဌ ဖဒိုစောကွယ်ထူးဝင်းနှင့် KNU တပ်မဟာ (၄) တပ်မဟာမှူး ဗိုလ်မှူးချုပ် စောဒါးကျော်လူးတို့က ဆက်ဆံရေးရုံးကို ဖဲကြိုးဖြတ်ဖွင့်လှစ်ပေးပြီး ပြည်ထောင်စုဝန်ကြီး ဦးဇော်မင်းနှင့် အဖွဲ့ဝင်များသည် ဆက်ဆံရေးရုံး အထိမ်းအမှတ်ဆိုင်းဘုတ်ကို အမွှေးနံ့သာရည်ပက်ဖျန်းပေးကာ ရုံးအတွင်းလှည့်လည် ကြည့်ရှုကြသည်။ ထို့နောက် ပြည်ထောင်စုဝန်ကြီး ဦးဇော်မင်း၊ တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့မှ တိုင်းဒေသကြီးအဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့နှင့် KNU ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့မှ ဖဒိုစောကွယ်ထူးဝင်းဦးဆောင်သော အဖွဲ့ဝင်များသည် ထားဝယ်မြို့ရှိ မြို့တော်ခန်းမသို့ ရောက်ရှိကြသည်။<br>ဆက်လက်၍ ငြိမ်းချမ်းရေး ဆက်လက်ဖော်ဆောင်နိုင်ရေးကိစ္စများ တွေ့ဆုံဆွေးနွေးပွဲကိုကျင်းပရာ ပြည်ထောင်စုဝန်ကြီး၊ တိုင်းဒေသကြီးဝန်ကြီးချုပ်၊ တိုင်းမှူး၊ တိုင်းဒေသကြီးဝန်ကြီး ဗိုလ်မှူးကြီး ဇော်လွင်နှင့် တိုင်းဒေသကြီးဝန်ကြီးများ၊ တိုင်းဒေသကြီးဥပဒေချုပ်၊ KNU ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့မှ ဖဒိုစောကွယ်ထူးဝင်းနှင့် အဖွဲ့ဝင်များ၊ တပ်မဟာ (၄) တပ်မဟာမှူးနှင့် အဖွဲ့ဝင်များ၊ ငြိမ်းချမ်းရေး အကျိုးတော်ဆောင်များ တက်ရောက်ကြသည်။ | |

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၆။ | ၁၀-၄-၂၀၁၂ | **KNU ဆက်ဆံရေးရုံးများတွင် အသုံးပြုရန် မော်တော်ယာဉ်နှစ်စီးလွှဲ ပြောင်းပေးအပ် ပြည်နယ်အဆင့် ငြိမ်းချမ်းရေးဆက်လက် ဖော်ဆောင်နိုင်ရေး ဆွေးနွေး**<br>ကရင်အမျိုးသားအစည်းအရုံး (KNU) ဆက်ဆံရေးရုံးများတွင် အသုံးပြုရန် မော်တော်ယာဉ်နှစ်စီး လွှဲပြောင်းပေးအပ်ပွဲကို ဧပြီ ၁၀ ရက် ညနေပိုင်းတွင် ကရင်ပြည်နယ် ဘားအံမြို့ ဇွဲကပင်ဟိုတယ်၌ ကျင်းပရာ ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့မှ ပြည်ထောင်စုဝန်ကြီးများ ဖြစ်ကြသည့် ဦးအောင်မင်း ဦးဆောင်သော အဖွဲ့ဝင်များနှင့် တာဝန်ရှိပုဂ္ဂိုလ်များ၊ ကရင်အမျိုးသားအစည်းအရုံး (KNU)မှ အထွေထွေ အတွင်းရေးမှူးချုပ် နော်စီဖိုးရာစိန်နှင့် စစ်ဦးစီးချုပ် ဗိုလ်ချုပ်ကြီး စောမူတူးစေးဖိုး ဦးဆောင်သည့်အဖွဲ့ဝင်များနှင့် နှစ်ဖက် ငြိမ်းချမ်းရေး အကျိုးတော်ဆောင်များ တက်ရောက်ကြသည်။<br>ရှေးဦးစွာ ဘားအံမြို့နှင့် ထားဝယ်မြို့တို့ရှိ ဆက်ဆံရေးရုံးများတွင် အသုံးပြုရန် စက်မှုဝန်ကြီးဌာနက လှူဒါန်းသော GRAND TIGER နှစ်စီးကို စက်မှုဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီးဦးစိုးသိန်းကိုယ်စား လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဦးခင်ရီက (KNU) မှ စစ်ဦးစီးချုပ် ဗိုလ်ချုပ်ကြီးစောမူတူးစေးဖိုးထံသို့ စာရွက်စာတမ်းများနှင့်အတူ လွှဲပြောင်းပေးအပ်သည်။ | |



| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | ထို့နောက် ပြည်ထောင်စုဝန်ကြီးများ၊ ပြည်နယ်ဝန်ကြီးချုပ်နှင့် ပြည်နယ်အဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့ဝင်များ၊ (KNU) ငြိမ်းချမ်းရေး ဖော်ဆောင်ရေးအဖွဲ့မှ နော်စီဖိုးရာစိန်နှင့် ဗိုလ်ချုပ်ကြီး စောမူတူးစေးဖိုး ဦးဆောင်သည့် အဖွဲ့ဝင်များသည် ပြည်နယ်အဆင့်ငြိမ်းချမ်းရေး ဆက်လက်ဖော်ဆောင်နိုင်ရေးကိစ္စအား တွေ့ဆုံဆွေးနွေးကြရာ အပစ်အခတ်ရပ်စဲရေး ရေရှည်တည်တံ့ခိုင်မြဲရေး၊ ဆက်ဆံရေးရုံးများ ဖွင့်လှစ်ထားရှိရေး ကိစ္စများကို ဆွေးနွေးခဲ့ကြပြီး ပြည်နယ်လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီး ဗိုလ်မှူးကြီး အောင်လွင်နှင့် ကရင်အမျိုးသား အစည်းအရုံး (KNU) မှ ဗဟိုကော်မတီဝင် စောသောသီဘွဲ့တို့က အစည်းအဝေးမှတ်တမ်းကို လက်မှတ်ရေးထိုးကာ အပြန်အလှန်လဲလှယ်ခဲ့ကြသည်။ | |
| ၇။ | ၁၅-၅-၂၀၁၂ | **ကရင်အမျိုးသား (KNU)၏ တတိယမြောက် ဆက်ဆံရေးရုံးဖွင့်လှစ်**<br>ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံတော်အစိုးရအဖွဲ့နှင့် ငြိမ်းချမ်းရေး ဆွေးနွေးပြီး အပစ်အခတ်ရပ်စဲထားသော တိုင်းရင်းသားအဖွဲ့များအနက်မှ ကရင်အမျိုးသားအစည်းအရုံး (KNU)က ဘုရားသုံးဆူ၌ တတိယမြောက်ဆက်ဆံရေးရုံး ဖွင့်လှစ်ခြင်းအခမ်းအနားကို မေ ၁၅ ရက် နံနက် ၉ နာရီတွင် ကျင်းပရာ ပြည်ထောင်စုငြိမ်းချမ်းရေး ဖော်ဆောင်ရေးလုပ်ငန်းကော်မတီ ဒုတိယဥက္ကဋ္ဌ ပြည်ထောင်စုဝန်ကြီး ဦးအောင်မင်း | |

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | ဦးဆောင်သောအဖွဲ့ဝင်များနှင့် ကရင်အမျိုးသားအစည်းအရုံး(KNU)မှ ဗိုလ်ချုပ်စောမူတူးဆေးဖိုး၊ ပဒိုစောရောဂျာခင်၊ ပဒိုဒေးဗစ်ထော၊ ဗိုလ်မှူးချုပ်စောဆာမိ၊ ဗိုလ်မှူးချုပ်ဂျော်နီ၊ ဗိုလ်မှူးချုပ် ဒါးကျော်တို့ ဦးစီးပါဝင်သော KNU အဖွဲ့ဝင်များနှင့် နှစ်ဖက်ငြိမ်းချမ်းရေးအကျိုးတော်ဆောင်များ တက်ရောက်ခဲ့ကြသည်။ | |
| ၈။ | ၂၉-၉-၂၀၁၂ | **ကရင်အမျိုးသားလွတ်မြောက်ရေးတပ်မတော် (KNLA) ဆက်ဆံရေးရုံး ဘားအံမြို့၌ဖွင့်**<br>နိုင်ငံတော်က ပြည်သူများလိုလားတောင့်တလျက်ရှိသည့် တည်ငြိမ်အေးချမ်းမှုရရှိစေရေးအတွက် စဉ်ဆက်မပြတ် ကြိုးပမ်းဆောင်ရွက်လျက်ရှိရာ စက်တင်ဘာ ၂၉ ရက်နံနက်ပိုင်းတွင် ကရင်ပြည်နယ် ဘားအံမြို့အမှတ် (၄) ရပ်ကွက်၊ သီရိလမ်း၊ အမှတ် (၄/၅၀၀)၌ (KNLA) (Karen National Leberation Army) တပ်မဟာများ ဆက်ဆံရေးရုံး(ဘားအံ) ဖွင့်ပွဲအခမ်းအနား ကျင်းပရာအခမ်းအနားသို့ သမ္မတရုံးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဦးအောင်မင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဦးဝင်းထွန်း၊ မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဦးအုန်းမြင့်၊ ကရင်ပြည်နယ်ဝန်ကြီးချုပ်ဦးဇော်မင်း၊ ကရင်ပြည်နယ်လွှတ်တော်ဥက္ကဋ္ဌ ဦးစောအောင်ကျော်မင်း၊ လွှတ်တော်ကိုယ်စားလှယ်များ၊ | |



| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | ပြည်နယ်အစိုးရအဖွဲ့ဝင်များ၊ NGO, INGOs များ၊ တပ်ရင်း/တပ်ဖွဲ့များ၊ ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့ဝင်များ၊ ပြည်နယ်အဆင့်ဌာနဆိုင်ရာများ၊ နိုင်ငံရေးပါတီများမှ ကိုယ်စားလှယ်များ၊ ဘားအံမြို့ပေါ်ရပ်ကွက်များမှ ပြည်သူများ၊ ကရင်ရိုးရာ ဒုံးယိမ်းအကအဖွဲ့များ၊ ကျောင်းသားကျောင်းသူ ဘင်ခရာအဖွဲ့များ စုစုပေါင်းအင်အား ၄၀၀ ခန့် တက်ရောက်ကြသည်။<br>ရှေးဦးစွာ ဆက်ဆံရေးရုံးအား ပြည်ထောင်စုဝန်ကြီး ဦးအောင်မင်း၊ ဦးအုန်းမြင့်၊ ပြည်နယ်ဝန်ကြီးချုပ်၊ ပြည်နယ်လွှတ်တော်ဥက္ကဋ္ဌနှင့် KNLA စစ်ဦးစီးချုပ် စောမူတူးဆေးဖိုးတို့က ဖဲကြိုးဖြတ်ဖွင့်လှစ်ပေးကြပြီး ဆက်ဆံရေးရုံး ဆိုင်းဘုတ်ကို KNLA စစ်ဦးစီးချုပ်က စက်ခလုတ်နှိပ် ဖွင့်လှစ်ပေးသည်။ ထို့နောက် ဘားအံမြို့ကန်သာဦးခန်းမ၌ အခမ်းအနားကို ဆက်လက်ကျင်းပရာ ပြည်ထောင်စုဝန်ကြီး ဦးအောင်မင်း၊ KNLA စစ်ဦးစီးချုပ် စောမူတူးဆေးဖိုးတို့က အမှာစကား ပြောကြားကြသည်။<br>ယခုဖွင့်လှစ်သည့် ဘားအံမြို့ KNLA တပ်မဟာများဆက်ဆံရေးရုံးနှင့် ကျောက်ကြီးမြို့၊ ထားဝယ်မြို့၊ မြဝတီမြို့နှင့် ဘုရားသုံးဆူမြို့များ၌ ဖွင့်လှစ်ခဲ့ပြီး ဆက်ဆံရေးရုံးများ စုစုပေါင်းဆက်ဆံရေးရုံး ငါးရုံး ဖွင့်လှစ်ပြီးဖြစ်သည်။ ဆက်ဆံရေးရုံးဖွင့်လှစ်ခြင်းကြောင့် ထာဝရငြိမ်းချမ်းရေးရရှိရေးအတွက် တာဝန်ရှိ | |

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | သူများပိုမိုထိတွေ့ပြီး ဆက်ဆံရေး တိုးမြှင့်ဆောင်ရွက်နိုင်မည်ဖြစ်ပြီး ငြိမ်းချမ်းရေးမျှော်လင့်နေသော ဒေသခံတိုင်းရင်းသားပြည်သူများမှလည်း အထူးပင်ဝမ်းမြောက်ဂုဏ်ယူလျက်ရှိသည်။ | |



## မွန်ပြည်သစ်ပါတီ (NMSP) နှင့် ငြိမ်းချမ်းရေးဆွေးနွေးမှုများ

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၁။ | ၁-၂-၂၀၁၂ | **ငြိမ်းချမ်းရေးတည်ဆောက်ရန်အတွက် ပြည်နယ်အဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့နှင့် မွန်ပြည်သစ်ပါတီ (NMSP) ငြိမ်းချမ်းရေး ဖော်ဆောင်ရေးအဖွဲ့တို့ ပဏာမ သဘောတူညီချက် လက်မှတ်ရေးထိုး**<br>ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ၏ ငြိမ်းချမ်းရေးဖိတ်ခေါ်ချက်အရ မွန်ပြည်သစ်ပါတီ (NMSP) ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့သည် မွန်ပြည်နယ်အစိုးရအဖွဲ့၏ ပြည်နယ်အဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့နှင့် ပဏာမသဘောတူညီချက် လက်မှတ်ရေးထိုးရန်အတွက် မော်လမြိုင်မြို့ Strand Hotel သို့ ဇန်နဝါရီ ၃၁ ရက်တွင် ရောက်ရှိလာကြသည်။<br>ယင်းနောက် ဖေဖော်ဝါရီ ၁ ရက်တွင် Strand Hotel ၌ ပဏာမငြိမ်းချမ်းရေး ဖော်ဆောင်ရေး ဆွေးနွေးပွဲကျင်းပရာ ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့မှ ပြည်ထောင်စုဝန်ကြီး ဦးအောင်မင်းဦးဆောင်သောအဖွဲ့ဝင်များနှင့် တာဝန်ရှိသူများ၊ မွန်ပြည်သစ်ပါတီ (NMSP) ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့မှ ဒုတိယဥက္ကဋ္ဌ ဦးနိုင်ရော့စ ဦးဆောင်သည့် အဖွဲ့ဝင်များနှင့် နှစ်ဖက်ငြိမ်းချမ်းရေးအကျိုးတော်ဆောင်များ တက်ရောက်ကြသည်။ | |

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | ပြည်နယ်အဆင့်ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့မှ ဗိုလ်မှူးကြီးဌေးမြင့်အောင် ဦးစီးအဖွဲ့ဝင်ငါးဦးနှင့် မွန်ပြည်သစ်ပါတီ (NMSP) ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့မှ ဒုတိယဥက္ကဋ္ဌ ဦးနိုင်ရော့စဦးဆောင်သည့် အဖွဲ့ဝင်ခုနစ်ဦးတို့သည် ပဏာမဆောင်ရွက်ရန် သဘောတူညီချက်(၅)ချက်ကို သဘောတူပြီး မွန်ပြည်သစ်ပါတီ (NMSP) ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့က သက်ဆိုင်ရာ မွန်ပြည်သစ်ပါတီ ဗဟိုကော်မတီသို့ ခွင့်ပြုချက်တောင်းခံ၍ ၂၀၁၂ ခုနှစ် ဖေဖော်ဝါရီလ တတိယပတ်တွင် အတည်ပြုလက်မှတ်ရေးထိုးမည်ဖြစ်ကြောင်းဖြင့် ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့ ရှေ့မှောက်၌ လက်မှတ်ရေးထိုးကြသည်။<br>ထို့နောက် ဗိုလ်မှူးကြီးဌေးမြင့်အောင်နှင့် မွန်ပြည်သစ်ပါတီ (NMSP) ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့မှ ဦးနိုင်တလညီတို့သည် ပဏာမသဘောတူညီမှုစာချုပ်ကို အပြန်အလှန်လဲလှယ်ကြသည်။<br>ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ၏ ငြိမ်းချမ်းရေး ဖိတ်ခေါ်ချက်အရ နိုင်ငံတော်အစိုးရသို့ ကမ်းလှမ်းလာသော မွန်ပြည်သစ်ပါတီနှင့် နိုင်ငံတော်အစိုးရအဖွဲ့မှ ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့တို့သည် ပဏာမသဘောတူညီချက် လက်မှတ်ရေးထိုးပွဲသို့ တက်ရောက်ရန်အတွက် မွန်ပြည်နယ် မော်လမြိုင်မြို့ရှိ | |



| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | Strand Hotel သို့ ဖေဖော်ဝါရီ ၂၄ ရက်တွင် ရောက်ရှိပြီး ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့မှ ရထားပို့ဆောင်ရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဦးအောင်မင်း ဦးဆောင်သောအဖွဲ့ဝင်များသည် မွန်ပြည်သစ်ပါတီ (NMSP) ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့မှ ဦးနိုင်ရော့စဦးစီးသည့်အဖွဲ့နှင့် ပဏာမညှိနှိုင်းဆွေးနွေးကြသည်။<br>ဖေဖော်ဝါရီ ၂၅ ရက်တွင် မော်လမြိုင်မြို့ရှိ Strand Hotel ၌ ပဏာမသဘောတူလက်မှတ်ရေးထိုးပွဲကျင်းပရာ ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့မှ ပြည်ထောင်စုဝန်ကြီး ဦးအောင်မင်းဦးဆောင်သော အဖွဲ့ဝင်များနှင့် တာဝန်ရှိသူများ၊ မွန်ပြည်သစ်ပါတီ (NMSP) ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့မှ ဒုတိယဥက္ကဋ္ဌ ဦးနိုင်ရော့စဦးဆောင်သည့် အဖွဲ့ဝင်များနှင့် နှစ်ဖက်သော ငြိမ်းချမ်းရေးအကျိုးတော်ဆောင်များ တက်ရောက်ကြသည်။<br>ဆက်လက်၍ ပြည်နယ်အဆင့် ငြိမ်းချမ်းရေးအဖွဲ့မှ ဗိုလ်မှူးကြီးဌေးမြင့်အောင်ဦးစီး(၅)ဦးနှင့် မွန်ပြည်သစ်ပါတီမှ ဖွဲ့စည်းပေးသော ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့မှ ဗဟိုအလုပ်အမှုဆောင်အဖွဲ့ဝင် ဦးနိုင်တလညီ ဦးစီး (၅) ဦးတို့သည် ၂၀၁၂ ခုနှစ် ဖေဖော်ဝါရီ ၁ ရက်က နှစ်ဖက် ပဏာမသဘောတူညီခဲ့သော ပြည်နယ်အဆင့် သဘောတူညီချက်(၅)ချက်အား ပြည်ထောင်စု | |

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | အဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေး အဖွဲ့မှ ပြည်ထောင်စုဝန်ကြီး ဦးအောင်မင်း၊ ဦးစိုးသိန်း၊ ဦးဇော်မင်း၊ ဦးဝင်းထွန်း၊ ပြည်နယ်ဝန်ကြီးချုပ် ဦးအုန်းမြင့်တို့၏ရှေ့မှောက်၌ အတည်ပြုသဘောတူ လက်မှတ်ရေးထိုးကြသည်။ | |
| ၂။ | ၁၁-၄-၂၀၁၂ | **ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့နှင့် မွန်ပြည်သစ်ပါတီ ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့တို့ မော်လမြိုင်မြို့၌ တွေ့ဆုံဆွေးနွေး**<br>ဧပြီ ၁၁ ရက် နံနက်ပိုင်းတွင် မော်လမြိုင်မြို့ မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး၌ ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့နှင့် မွန်ပြည်သစ်ပါတီ ငြိမ်းချမ်းရေး ဖော်ဆောင်ရေးအဖွဲ့တို့သည် ငြိမ်းချမ်းရေး ဆက်လက်ဖော်ဆောင်နိုင်ရေး တွေ့ဆုံဆွေးနွေးပွဲ ကျင်းပရာ ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့မှ ပြည်ထောင်စုဝန်ကြီး ဦးအောင်မင်းဦးဆောင်သော အဖွဲ့ဝင်များနှင့် မွန်ပြည်သစ်ပါတီ ငြိမ်းချမ်းရေး ဖော်ဆောင်ရေးအဖွဲ့မှ တွဲဖက်အထွေထွေ အတွင်းရေးမှူး (၁) နိုင်အောင်မင်း ဦးဆောင်သည့် အဖွဲ့ဝင်များနှင့် နှစ်ဖက်ငြိမ်းချမ်းရေး အကျိုးတော်ဆောင်များ တက်ရောက်ကြသည်။<br>တွေ့ဆုံဆွေးနွေးပွဲတွင် ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့ နှင့် မွန်ပြည်သစ်ပါတီ ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့တို့သည် တစ်နိုင်ငံလုံး အပစ်အခတ်ရပ်စဲနိုင်ရေး၊ မွန်ပြည်သစ်ပါတီနှင့် အပစ် | |



| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | အခတ်ရပ်စဲမှု ရေရှည်တည်တံ့ခိုင်မြဲရေး၊ နယ်မြေဒေသဖွံ့ဖြိုးရေးနှင့် လူမှုရေး၊ ပညာရေး၊ ကျန်းမာရေး၊ စီးပွားရေး၊ မွန်ပြည်သစ်ပါတီနှင့်ဆက်နွယ်သော အကျဉ်းသားများနှင့် အခြားလက်နက်ကိုင်အဖွဲ့အစည်းများ၏ အကျဉ်းသားများ ပြန်လည်လွတ်မြောက်ရေး၊ ပြည်ထောင်စုအဆင့် ဆွေးနွေးပွဲအား နောက်တစ်ကြိမ် ဆက်လက်ဆွေးနွေးနိုင်ရေးတို့ကို ဆွေးနွေးခဲ့ကြပြီး ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့မှ ပြည်ထောင်စုဝန်ကြီး ဦးအောင်မင်းနှင့် မွန်ပြည်သစ်ပါတီ ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့မှ တွဲဖက်အထွေထွေ အတွင်းရေးမှူး (၁) နိုင်အောင်မင်းတို့သည် ဆွေးနွေးပွဲမှတ်တမ်းကို အတည်ပြုလက်မှတ်ရေးထိုးကာ အပြန်အလှန် လဲလှယ်ခဲ့ကြကြောင်း သိရသည်။ | |

## ကရင်နီအမျိုးသားတိုးတက်ရေးပါတီ(KNPP) နှင့် ငြိမ်းချမ်းရေးဆွေးနွေးမှုများ

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၁။ | ၇-၃-၂၀၁၂ | **ငြိမ်းချမ်းရေးတည်ဆောက်ရန်အတွက် ပြည်နယ်အဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့နှင့် ကရင်နီအမျိုးသားတိုးတက်ရေးပါတီ (KNPP) ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့တို့ ပဏာမသဘောတူညီချက်လက်မှတ်ရေးထိုး**<br>ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ၏ ငြိမ်းချမ်းရေးဖိတ်ခေါ်ချက်အရ နိုင်ငံတော်အစိုးရသို့ ကမ်းလှမ်းလာသော ကရင်နီအမျိုးသား တိုးတက်ရေးပါတီ (KNPP)သည် ကယားပြည်နယ်အစိုးရအဖွဲ့နှင့် ပြည်နယ်အဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေး ပဏာမသဘောတူညီချက် လက်မှတ်ရေးထိုးပွဲသို့ တက်ရောက်ရန်အတွက် ကယားပြည်နယ်၊ လွိုင်ကော်မြို့သို့ မတ် ၆ ရက်တွင် ရောက်ရှိလာကြသည်။<br>ထို့နောက် ကယားပြည်နယ်အစိုးရအဖွဲ့ရုံး၌ ကရင်နီအမျိုးသားတိုးတက်ရေးပါတီ (KNPP) ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့မှ အတွင်းရေးမှူး(၁) ခူဦးရယ် ဦးဆောင်သည့်အဖွဲ့တို့နှင့် အကြိုညှိနှိုင်း ဆွေးနွေးမှုများ ပြုလုပ်ကြသည်။<br>မတ် ၇ ရက်တွင် ကယားပြည်နယ် လွိုင်ကော်မြို့ရှိ ပြည်နယ်အစိုးရအဖွဲ့ရုံး၌ ပဏာမသဘောတူလက်မှတ်ရေးထိုးပွဲကို ကျင်းပရာ ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့မှ ပြည်ထောင်စုဝန်ကြီး ဦးအောင်မင်းဦးဆောင်သော အဖွဲ့ဝင်များနှင့် | |



| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | တာဝန်ရှိသူများ၊ ကရင်နီအမျိုးသားတိုးတက်ရေးပါတီ (KNPP) ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့မှ အတွင်းရေးမှူး(၁) ခူဦးရယ်ဦးဆောင်သည့် အဖွဲ့ဝင်များနှင့် နှစ်ဖက်ငြိမ်းချမ်းရေး အကျိုးတော်ဆောင်များ တက်ရောက်ကြသည်။<br>ရှေးဦးစွာ ပြည်နယ်အစိုးရအဖွဲ့က ဖွဲ့စည်းပေးထားသော ပြည်နယ်အဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့မှ ဗိုလ်မှူးကြီး တင်စိုး ဦးစီးသည့် အဖွဲ့ဝင်ငါးဦးနှင့် ကရင်နီအမျိုးသားတိုးတက်ရေးပါတီ (KNPP) ငြိမ်းချမ်းရေး ဖော်ဆောင်ရေးအဖွဲ့မှ ပါတီဗဟိုကော်မတီဝင် ကရင်နီပြည် တပ်မတော်စစ်ရေးချုပ် ဗိုလ်မှူးကြီးဘုန်းနိုင် ဦးဆောင်သည့် အဖွဲ့ဝင် လေးဦးတို့သည် ပဏာမသဘောတူညီချက် (၃) ချက်အပြင် ကရင်နီအမျိုးသားတိုးတက်ရေးပါတီ (KNPP) မှ တင်ပြဆွေးနွေးလိုသည့် အချက် (၂၀)ပါ စာတမ်းအား နိုင်ငံတော်အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန်နှင့် လာမည့် ပြည်ထောင်စုအဆင့် အစည်းအဝေးတွင် ဆွေးနွေးသွားရန် နှစ်ဖက်ခေါင်းဆောင်များရှေ့မှောက်တွင် ပဏာမသဘောတူညီချက်ကို လက်မှတ်ထိုးကြသည်။<br>ထို့နောက် ပြည်နယ်အဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့မှ ဗိုလ်မှူးကြီး တင်စိုးနှင့် ကရင်နီ အမျိုးသားတိုးတက်ရေးပါတီ (KNPP) ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့မှ ဗိုလ်မှူးကြီး ဘုန်းနိုင်တို့သည် ပဏာမသဘောတူညီချက်ကို အပြန်အလှန် လဲလှယ်ကြသည်။ | |

**ရခိုင်ပြည်လွတ်မြောက်ရေးပါတီနှင့် ငြိမ်းချမ်းရေးဆွေးနွေးမှုများ**

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၁။ | ၄-၄-၂၀၁၂ မှ ၅-၄-၂၀၁၂ ထိ | **ရခိုင်ပြည်နယ် ငြိမ်းချမ်းရေးဆွေးနွေးရေး အဖွဲ့ဝင်များနှင့် ရခိုင်ပြည် လွတ်မြောက်ရေးပါတီ ငြိမ်းချမ်းရေးဖော်ဆောင်ရေး အဖွဲ့တို့ ပြည်နယ်အဆင့် ငြိမ်းချမ်းရေး ဆွေးနွေး**<br>ရခိုင်ပြည်နယ်အဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့ခေါင်းဆောင် ပြည်နယ်လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီး ဗိုလ်မှူးကြီး ထိန်လင်း ဦးဆောင်သော အဖွဲ့ဝင် (၃)ဦးနှင့် ရခိုင်ပြည်လွတ်မြောက်ရေးပါတီမှ ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့ခေါင်းဆောင် တွဲဖက်အထွေထွေအတွင်းရေးမှူး (၂) ခိုင်သုခဦးစီးသော ကိုယ်စားလှယ်အဖွဲ့တို့သည် ဧပြီ ၄ ရက် မွန်းလွဲ ၁ နာရီခွဲတွင် စစ်တွေဟိုတယ်၌ နှစ်ဦးနှစ်ဖက် သဘောတူညီမှုများအား ပြေလည်မှုရရှိသည်အထိ ညှိနှိုင်းခဲ့ကြသည်။<br>၄င်းနောက် ဧပြီ ၅ ရက် နံနက် ၈ နာရီတွင် ရခိုင်ပြည်နယ် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့နှင့် ရခိုင်ပြည်လွတ်မြောက်ရေးပါတီမှ ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့တို့သည် စစ်တွေဟိုတယ်၌ ဆက်လက်ညှိနှိုင်းဆွေးနွေးခဲ့ကြပြီး အချက် (၅) ချက်ကို နှစ်ဦးနှစ်ဖက်သဘောတူလက်မှတ်ရေးထိုးခဲ့ကြပြီး ပြည်နယ်ဝန်ကြီးချုပ်၏ ရှေ့မှောက်တွင် အပြန်အလှန် လဲလှယ်ခဲ့ကြသည်။ | |



**နာဂလက်နက်ကိုင် NSCN(K) မှ ငြိမ်းချမ်းရေး ဖော်ဆောင်ရေးအဖွဲ့နှင့် ငြိမ်းချမ်းရေးဆွေးနွေးမှုများ**

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၁။ | ၉-၄-၂၀၁၂ | **စစ်ကိုင်းတိုင်းဒေသကြီး ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့နှင့် နာဂလက်နက်ကိုင် NSCN(K) မှ ငြိမ်းချမ်းရေး ဖော်ဆောင် ရေးအဖွဲ့တို့ ငြိမ်းချမ်းရေးတည်ဆောက် နိုင်ရန် တွေ့ဆုံဆွေးနွေးညှိနှိုင်း**<br>ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အစိုးရ၏ ငြိမ်းချမ်းရေး ဖိတ်ခေါ်ချက်အရ နိုင်ငံတော်အစိုးရသို့ ကမ်းလှမ်းလာသော တိုင်းရင်းသားလက်နက်ကိုင် အဖွဲ့အစည်းများနှင့် ငြိမ်းချမ်းရေးအတွက် ဆွေးနွေးညှိနှိုင်းမှုများကို သက်ဆိုင်ရာ နယ်မြေဒေသအသီးသီး၌ ဆောင်ရွက်လျက်ရှိရာ ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့၏ စေ့စပ်ညှိနှိုင်းစီစဉ်ပေးမှုဖြင့် ဧပြီ ၉ ရက် မွန်းလွဲ ၂ နာရီတွင် စစ်ကိုင်းတိုင်းဒေသကြီး ခန္တီးမြို့ တပ်နယ်ခန်းမ၌ စစ်ကိုင်းတိုင်းဒေသကြီး ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့ ခေါင်းဆောင် တိုင်းဒေသကြီးလုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီး ဗိုလ်မှူးကြီးကြည်နိုင် ဦးဆောင်သော ငြိမ်းချမ်းရေးဆွေးနွေးရေး အဖွဲ့ဝင်ငါးဦးနှင့် နာဂလက်နက်ကိုင် NSCN (K)မှ ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့ ခေါင်းဆောင် Y.ဝမ်းတင် နာဂဦးဆောင်သော အဖွဲ့ဝင်ခုနစ်ဦးတို့သည် ငြိမ်းချမ်းရေးတည် ဆောက်နိုင်ရန်အတွက် တွေ့ဆုံဆွေးနွေး ညှိနှိုင်းခဲ့ကြသည်။ | |

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | အဆိုပါဆွေးနွေးပွဲတွင် နှစ်ဖက်ကိုယ်စားလှယ်များသည် ငြိမ်းချမ်းရေးတည်ဆောက်နိုင်ရန်အတွက် ဆွေးနွေးညှိနှိုင်းရန်ကိစ္စရပ်များအား အပြန်အလှန် ခင်မင်ရင်းနှီးပွင့်လင်းစွာ ဆွေးနွေးညှိနှိုင်းခဲ့ပြီး ဆွေးနွေးပွဲ၏ ရလဒ်အဖြစ် အချက်(၅)ချက် ပါဝင်သော ပဏာမသဘောတူညီချက်ကို စစ်ကိုင်းတိုင်းဒေသကြီး ဝန်ကြီးချုပ် ဦးသာအေး၏ ရှေ့မှောက်၌ လက်မှတ်ရေးထိုးကာ အပြန်အလှန် လဲလှယ်ခဲ့ကြသည်။ | |



**ပအိုဝ်းအမျိုးသားလွတ်မြောက်ရေးအဖွဲ့ချုပ် (PNLO)နှင့် ငြိမ်းချမ်းရေးဆွေးနွေးမှုများ**

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၁။ | ၂၅-၈-၂၀၁၂ မှ ၂၇-၈-၂၀၁၂ ထိ | **ပအိုဝ်းအမျိုးသားလွတ်မြောက်ရေးအဖွဲ့ချုပ် (PNLO)နှင့် ငြိမ်းချမ်းရေး တည်ဆောက်ရန်အတွက် ပြည်နယ်အဆင့် ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့နှင့် (PNLO)အဖွဲ့မှ ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့တို့ ငြိမ်းချမ်းရေးတည်ဆောက်နိုင်ရန် တွေ့ဆုံဆွေးနွေးညှိနှိုင်း**<br>ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ၏ ငြိမ်းချမ်းရေးဖိတ်ခေါ်ချက်အရ နိုင်ငံတော်အစိုးရသို့ ငြိမ်းချမ်းရေးကမ်းလှမ်းလာသော ပအိုဝ်းအမျိုးသား လွတ်မြောက်ရေးအဖွဲ့ချုပ် (PNLO)နှင့် ငြိမ်းချမ်းရေးတည်ဆောက်ရန်အတွက် ပြည်နယ်အဆင့် ငြိမ်းချမ်းရေး ဖော်ဆောင်ရေးအဖွဲ့နှင့် (PNLO)အဖွဲ့မှ ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့တို့သည် ဩဂုတ် ၂၅ ရက် နံနက် ၉ နာရီခွဲတွင် တောင်ကြီးမြို့ တောင်ကြီးဟိုတယ်၌တွေ့ဆုံဆွေးနွေးကြရာ ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့ ဒုတိယဥက္ကဋ္ဌ ဦးအောင်မင်းဦးဆောင်သော အဖွဲ့ဝင်များနှင့် တာဝန်ရှိသူများ၊ PNLO ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့ခေါင်းဆောင် ဦးခွန်မြင့်ထွန်း၊ ဒုတိယအဖွဲ့ခေါင်းဆောင် ဦးခွန်သူရိန်နှင့် အဖွဲ့ဝင်များ တက်ရောက်ကြသည်။<br>အခမ်းအနားတွင် ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့ ဒုတိယဥက္ကဋ္ဌ | |

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | ဦးအောင်မင်းက အဖွင့်အမှာစကားပြောကြားပြီး အဖွဲ့ဝင်များနှင့် တာဝန်ရှိသူများက ပြည်နယ်အဆင့်ငြိမ်းချမ်းရေးဖော်ဆောင်ရေးအတွက် သဘောထားများနှင့် အကြံပြုချက်များကို ရှင်းလင်းတင်ပြကြသည်။<br>ဆက်လက်၍ ပအိုဝ်းအမျိုးသားလွတ်မြောက်ရေးအဖွဲ့ချုပ်(PNLO)မှ အဖွဲ့ခေါင်းဆောင် ဦးခွန်မြင့်ထွန်း၊ ဦးခွန်သူရိန်နှင့် ဦးခွန်တိဆောင်တို့က ပအိုဝ်းအမျိုးသား လွတ်မြောက်ရေးအဖွဲ့ချုပ်၏ သဘောထားများနှင့် ငြိမ်းချမ်းရေးဖော်ဆောင်ရေးဆိုင်ရာအချက်များကို ရှင်းလင်းတင်ပြကြသည်။<br>ယင်းနောက် ပြည်နယ်အဆင့် ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့နှင့် ပအိုဝ်းအမျိုးသားလွတ်မြောက်ရေးအဖွဲ့ချုပ်မှ ဖွဲ့စည်းပေးသော ငြိမ်းချမ်းရေး ကိုယ်စားလှယ်အဖွဲ့တို့သည် ၂၀၁၂ ခုနှစ် ဇွန် ၂၇ ရက်က နှစ်ဦးနှစ်ဖက် "မူ"အားဖြင့် သဘောတူညီခဲ့သည့် သဘောတူညီချက်(၅)ချက်ကို ဆွေးနွေးညှိနှိုင်းကြပြီး ပြည်နယ်အဆင့် ငြိမ်းချမ်းရေး ဖော်ဆောင်ရေးအဖွဲ့နှင့် ပအိုဝ်းအမျိုးသားလွတ်မြောက်ရေးအဖွဲ့ချုပ် (PNLO)ကိုယ်စားလှယ်အဖွဲ့များက နှစ်ဦးနှစ်ဖက် သဘောတူလက်မှတ်ရေးထိုး အတည်ပြုခဲ့ကြသည်။<br>ထို့နောက် ပြည်ထောင်စုငြိမ်းချမ်းရေးဖော်ဆောင်ရေးလုပ်ငန်း ကော်မတီနှင့် ပအိုဝ်းအမျိုးသားလွတ်မြောက်ရေးအဖွဲ့ချုပ် (PNLO)မှ ဖွဲ့စည်းပေးသော ငြိမ်းချမ်းရေးကိုယ်စားလှယ်အဖွဲ့တို့သည် ပြည်ထောင်စုအဆင့် | |



| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | ဆွေးနွေးပွဲကို ဆက်လက်ကျင်းပရာ ပြည်ထောင်စုအဆင့် သဘောတူညီချက် (၈)ချက်ကို သဘောတူညီကြပြီး လက်မှတ်ရေးထိုးအတည်ပြုကြသည်။ | |

## ၂၀၁၀ ပြည့်နှစ် ပါတီစုံဒီမိုကရေစီအထွေထွေရွေးကောက်ပွဲတွင် ပါဝင်ယှဉ်ပြိုင်သည့် နိုင်ငံရေးပါတီများနှင့် ရွေးချယ်ခံရမှု အခြေအနေ

| စဉ် | ပါတီအမည် | ရွေးချယ်ခံရသည့်ဦးရေ | | | | |
|---|---|---|---|---|---|---|
| | | ပြည်သူ့လွှတ်တော် | အမျိုးသားလွှတ်တော် | ပြည်နယ်/တိုင်းဒေသကြီးလွှတ်တော် | တိုင်းရင်းသားလွှတ်တော် | စုစုပေါင်း |
| ၁။ | မြို(ခေါ်)ခမိအမျိုးသားညီညွတ်ရေးအဖွဲ့ | - | - | - | - | - |
| ၂။ | တိုင်းရင်းသားစည်းလုံးညီညွတ်ရေးပါတီ | ၁၂ | ၅ | ၄၅ | ၂ | ၆၄ |
| ၃။ | လားဟူအမျိုးသားဖွံ့ဖြိုးတိုးတက်ရေးပါတီ | - | - | ၁ | - | ၁ |
| ၄။ | ကိုးကန့်ဒီမိုကရေစီနှင့် ညီညွတ်ရေးပါတီ | - | - | - | - | - |
| ၅။ | ပအိုဝ်းအမျိုးသားအဖွဲ့ချုပ်(PNO) | ၃ | ၁ | ၆ | - | ၁၀ |
| ၆။ | ဒီမိုကရက်တစ်ပါတီ(မြန်မာ) | - | - | ၃ | - | ၃ |
| ၇။ | ကယန်းအမျိုးသားပါတီ | - | - | ၁ | ၁ | ၂ |
| ၈။ | မြန်မာနိုင်ငံ ရခိုင်ပြည်နယ် အမျိုးသား အင်အားစုပါတီ | - | - | - | - | - |
| ၉။ | ကရင်ပြည်သူ့ပါတီ | ၁ | ၁ | ၂ | ၂ | ၆ |
| ၁၀။ | "ဝ"အမျိုးသားစည်းလုံးညီညွတ်ရေးပါတီ | - | - | - | - | - |
| ၁၁။ | တအောင်း(ပလောင်)အမျိုးသားပါတီ | ၁ | ၁ | ၄ | - | ၆ |



| စဉ် | ပါတီအမည် | ရွေးချယ်ခံရသည့်ဦးရေ | | | | |
|---|---|---|---|---|---|---|
| | | ပြည်သူ့လွှတ်တော် | အမျိုးသားလွှတ်တော် | ပြည်နယ်/တိုင်းဒေသကြီးလွှတ်တော် | တိုင်းရင်းသားလွှတ်တော် | စုစုပေါင်း |
| ၁၂။ | မွန်ဒေသလုံးဆိုင်ရာ ဒီမိုကရေစီပါတီ | ၃ | ၄ | ၈ | ၁ | ၁၆ |
| ၁၃။ | ဒီမိုကရေစီနှင့် ငြိမ်းချမ်းရေးပါတီ | - | - | - | - | - |
| ၁၄။ | ရှမ်းတိုင်းရင်းသားများ ဒီမိုကရက်တစ်ပါတီ | ၁၈ | ၃ | ၃၄ | ၂ | ၅၇ |
| ၁၅။ | ညီညွတ်သောဒီမိုကရက်တစ်ပါတီ(UDP) | - | - | - | - | - |
| ၁၆။ | ၈၈ မျိုးဆက်ကျောင်းသားလူငယ်များ (ပြည်ထောင်စုမြန်မာနိုင်ငံ) | - | - | ၁ | - | ၁ |
| ၁၇။ | ပြည်ထောင်စုမြန်မာနိုင်ငံ အမျိုးသားနိုင်ငံရေး အဖွဲ့ချုပ် | - | - | - | - | - |
| ၁၈။ | အမျိုးသားနိုင်ငံရေးမဟာမိတ်များအဖွဲ့ချုပ် | - | - | - | - | - |
| ၁၉။ | ချင်းအမျိုးသားပါတီ | ၂ | ၂ | ၅ | - | ၉ |
| ၂၀။ | ဝံသာနု NLD (ပြည်ထောင်စုမြန်မာနိုင်ငံ) | - | - | - | - | - |
| ၂၁။ | ခေတ်သစ်ပြည်သူ့ပါတီ | - | - | - | - | - |
| ၂၂။ | ပြည်ထောင်စုဒီမိုကရေစီပါတီ | - | - | - | - | - |

| စဉ် | ပါတီအမည် | ရွေးချယ်ခံရသည့်ဦးရေ | | | | |
|---|---|---|---|---|---|---|
| | | ပြည်သူ့လွှတ်တော် | အမျိုးသားလွှတ်တော် | ပြည်နယ်/တိုင်းဒေသကြီးလွှတ်တော် | တိုင်းရင်းသားလွှတ်တော် | စုစုပေါင်း |
| ၂၃။ | မတူကွဲပြားခြင်းနှင့် ငြိမ်းချမ်းရေးပါတီ | - | - | - | - | |
| ၂၄။ | ချင်းတိုးတက်ရေးပါတီ | ၂ | ၄ | ၅ | ၁ | ၁၂ |
| ၂၅။ | အင်းအမျိုးသားဖွံ့ဖြိုးတိုးတက်ရေးပါတီ | ၁ | - | ၂ | ၁ | ၄ |
| ၂၆။ | ရခိုင်တိုင်းရင်းသားများ တိုးတက်ရေးပါတီ | ၉ | ၇ | ၁၈ | ၁ | ၃၅ |
| ၂၇။ | “ဝ”ဒီမိုကရက်တစ်ပါတီ | ၂ | ၁ | ၃ | - | ၆ |
| ၂၈။ | ဖလုံ-စဝေါ်ဒီမိုကရက်တစ်ပါတီ | ၂ | ၃ | ၄ | - | ၉ |
| ၂၉။ | အမျိုးသားဖွံ့ဖြိုးတိုးတက်ရေးဒီမိုကရက်တစ်ပါတီ | - | - | ၂ | - | ၂ |
| ၃၀။ | ပြည်ထောင်စုကြံ့ခိုင်ရေးနှင့် ဖွံ့ဖြိုးရေးပါတီ | ၂၅၉ | ၁၂၉ | ၄၇၇ | ၁၇ | ၈၈၂ |
| ၃၁။ | တိုင်းရင်းသားလူမျိုးစုများ ဖွံ့ဖြိုးရေးပါတီ | - | - | ၁ | - | ၁ |
| ၃၂။ | ကမန်အမျိုးသားတိုးတက်ရေးပါတီ | - | - | - | - | - |
| ၃၃။ | ခမီအမျိုးသားဖွံ့ဖြိုးတိုးတက်ရေးပါတီ | - | - | - | - | - |
| ၃၄။ | အမျိုးသားဒီမိုကရေစီအင်အားစုပါတီ | ၈ | ၄ | ၄ | - | ၁၆ |



| စဉ် | ပါတီအမည် | ရွေးချယ်ခံရသည့်ဦးရေ | | | | |
|---|---|---|---|---|---|---|
| | | ပြည်သူ့လွှတ်တော် | အမျိုးသားလွှတ်တော် | ပြည်နယ်/တိုင်းဒေသကြီးလွှတ်တော် | တိုင်းရင်းသားလွှတ်တော် | စုစုပေါင်း |
| ၃၅။ | စည်းလုံးညီညွတ်ရေးနှင့် ဒီမိုကရေစီပါတီ ကချင်ပြည်နယ်(စကဒ) | ၁ | ၁ | ၂ | - | ၄ |
| ၃၆။ | ကရင်ပြည်နယ်ဒီမိုကရေစီနှင့် ဖွံ့ဖြိုးတိုးတက်ရေးပါတီ | - | ၁ | ၁ | - | ၂ |
| ၃၇။ | အမျိုးသားဖွံ့ဖြိုးတိုးတက်ရေးနှင့် ငြိမ်းချမ်းရေးပါတီ | - | - | - | - | - |
| ၃၈။ | တစ်သီးပုဂ္ဂလ | ၁ | ၁ | ၃ | ၁ | ၆ |
| | **စုစုပေါင်း** | **၃၂၅** | **၁၆၈** | **၆၃၂** | **၂၉** | **၁၁၅၄** |

## တိုင်းဒေသကြီး၊ ပြည်နယ်၊ ခရိုင်၊ မြို့နယ် ခွဲခြားပုံ

| စဉ် | တိုင်းဒေသကြီး/ပြည်နယ် | ခရိုင် | မြို့နယ် | မြို့နယ်ခွဲ | ရပ်ကွက် | ကျေးရွာအုပ်စု | ရွာ |
|---|---|---|---|---|---|---|---|
| ၁။ | ကချင်ပြည်နယ် | ၄ | ၁၈ | ၉ | ၁၄၃ | ၅၉၇ | ၂၅၈၃ |
| ၂။ | ကယားပြည်နယ် | ၂ | ၇ | ၁ | ၃၁ | ၇၉ | ၆၂၀ |
| ၃။ | ကရင်ပြည်နယ် | ၃ | ၇ | ၆ | ၇၄ | ၃၇၄ | ၂၁၆၁ |
| ၄။ | ချင်းပြည်နယ် | ၂ | ၉ | ၃ | ၃၇ | ၄၇၁ | ၁၃၅၂ |
| ၅။ | မွန်ပြည်နယ် | ၂ | ၁၀ | ၂ | ၈၀ | ၃၈၃ | ၁၂၀၀ |
| ၆။ | ရခိုင်ပြည်နယ် | ၄ | ၁၇ | ၃ | ၁၃၃ | ၁၀၄၀ | ၃၈၆၀ |
| ၇။ | ရှမ်းပြည်နယ် | ၁၂ | ၅၅ | ၂၀ | ၄၃၂ | ၁၆၂၉ | ၁၅၃၈၇ |
| ၈။ | ပဲခူးတိုင်းဒေသကြီး | ၄ | ၂၈ | - | ၂၅၄ | ၁၄၂၃ | ၆၄၅၂ |
| ၉။ | စစ်ကိုင်းတိုင်းဒေသကြီး | ၈ | ၃၇ | ၃ | ၁၈၇ | ၁၇၆၈ | ၆၀၈၇ |
| ၁၀။ | တနင်္သာရီတိုင်းဒေသကြီး | ၃ | ၁၀ | ၆ | ၈၃ | ၂၆၄ | ၁၂၃၀ |
| ၁၁။ | မကွေးတိုင်းဒေသကြီး | ၅ | ၂၅ | ၁ | ၁၆၃ | ၁၅၄၁ | ၄၇၇၁ |
| ၁၂။ | မန္တလေးတိုင်းဒေသကြီး | ၈ | ၃၆ | ၂ | ၂၉၇ | ၁၅၉၇ | ၅၄၂၄ |
| ၁၃။ | ရန်ကုန်တိုင်းဒေသကြီး | ၄ | ၄၅ | ၁ | ၇၄၂ | ၆၂၀ | ၂၀၈၉ |
| ၁၄။ | ဧရာဝတီတိုင်းဒေသကြီး | ၆ | ၂၆ | ၇ | ၂၃၅ | ၁၉၁၂ | ၁၁၇၀၁ |



## ပထမအကြိမ် ပြည်ထောင်စုလွှတ်တော်၊ ပြည်သူ့လွှတ်တော်၊ အမျိုးသားလွှတ်တော် ပုံမှန်အစည်းအဝေး

| စဉ် | လွှတ်တော် အမည် | တက်ရောက်သည့် ကိုယ်စားလှယ်ဦးရေ | စတင်ကျင်းပ သည့်ရက်စွဲ | ကျင်းပပြီးစီး သည့်ရက်စွဲ | ကျင်းပသည့် ရက်ပေါင်း | မေးခွန်း မေးမြန်းခြင်း | အဆို တင်သွင်းခြင်း | မှတ်ချက် |
|---|---|---|---|---|---|---|---|---|
| ၁။ | ပြည်ထောင်စု လွှတ်တော် | ၅၈၆ ဦး | ၄-၂-၁၁ | ၃၀-၃-၁၁ | ၁၈ ရက် | ၂၂ | ၁၀ | |
| ၂။ | ပြည်သူ့ လွှတ်တော် | ၃၈၉ ဦး | ၃၁-၁-၁၁ | ၂၃-၃-၁၁ | ၁၄ ရက် | ၄၆ | ၁၇ | |
| ၃။ | အမျိုးသား လွှတ်တော် | ၂၁၁ ဦး | ၃၁-၁-၁၁ | ၂၃-၃-၁၁ | ၁၄ ရက် | ၃၃ | ၁၆ | |

ပထမအကြိမ် ပြည်ထောင်စုလွှတ်တော်၊ ပြည်သူ့လွှတ်တော်၊ အမျိုးသားလွှတ်တော် ဒုတိယပုံမှန်အစည်းအဝေး

| စဉ် | လွှတ်တော်အမည် | တက်ရောက်သည့်ကိုယ်စားလှယ်ဦးရေ | စတင်ကျင်းပသည့်ရက်စွဲ | ကျင်းပပြီးစီးသည့်ရက်စွဲ | ကျင်းပသည့်ရက်ပေါင်း | မေးခွန်းမေးမြန်းခြင်း | အဆိုတင်သွင်းခြင်း | ဥပဒေကြမ်းတင်သွင်းခြင်း | မှတ်ချက် |
|---|---|---|---|---|---|---|---|---|---|
| ၁။ | ပြည်ထောင်စုလွှတ်တော် | ၅၈၆ ဦး | ၂၂-၈-၁၁ | ၂၅-၁၁-၁၁ | ၆ ရက် | - | - | ၁၈ | |
| ၂။ | ပြည်သူ့လွှတ်တော် | ၃၈၉ ဦး | ၂၂-၈-၁၁ | ၂၄-၁၁-၁၁ | ၅၁ ရက် | ၅၀၆ | ၅၁ | ၈ | |
| ၃။ | အမျိုးသားလွှတ်တော် | ၂၁၁ ဦး | ၂၂-၈-၁၁ | ၁၆-၁၁-၁၁ | ၄၇ ရက် | ၃၅၈ | ၄၆ | ၁၀ | |



ပထမအကြိမ် ပြည်ထောင်စုလွှတ်တော်၊ ပြည်သူ့လွှတ်တော်၊ အမျိုးသားလွှတ်တော် တတိယပုံမှန်အစည်းအဝေး

| စဉ် | လွှတ်တော်အမည် | တက်ရောက်သည့်ကိုယ်စားလှယ်ဦးရေ | စတင်ကျင်းပသည့်ရက်စွဲ | ကျင်းပပြီးစီးသည့်ရက်စွဲ | ကျင်းပသည့်ရက်ပေါင်း | မေးခွန်းမေးမြန်းခြင်း | အဆိုတင်သွင်းခြင်း | ဥပဒေကြမ်းတင်သွင်းခြင်း | မှတ်ချက် |
|---|---|---|---|---|---|---|---|---|---|
| ၁။ | ပြည်ထောင်စုလွှတ်တော် | ၆၀၀ ဦး | ၂၉-၁-၁၂ | ၃၀-၄-၁၂ | ၂၉ ရက် | ၁ | ၆ | ၂၄ | |
| ၂။ | ပြည်သူ့လွှတ်တော် | ၃၄၃ ဦး | ၂၆-၁-၁၂ | ၂-၅-၁၂ | ၂၃ ရက် | ၅၁၆ | ၂၅ | ၁၆ | |
| ၃။ | အမျိုးသားလွှတ်တော် | ၁၆၁ ဦး | ၂၆-၁-၁၂ | ၂-၅-၁၂ | ၂၁ ရက် | ၁၁၆ | ၃၀ | ၈ | |

## ကဏ္ဍအလိုက် ဖွံ့ဖြိုးတိုးတက်မှုများ

### လယ်ယာစိုက်ပျိုးရေးကဏ္ဍ (၃၁-၁၂-၂၀၁၀)

| | | | | |
|---|---|---|---|---|
| ၁။ | စိုက်ပျိုးမြေဧရိယာစုစုပေါင်း | - | ၅၈၃၆၀၉၇၃ | ဧက |
| ၂။ | ဆောက်လုပ်ပြီးဆည်၊ ကန်၊ တာတမံပေါင်း | - | ၃၇၁ | ခု |
| ၃။ | တည်ဆောက်ပြီး မြစ်ရေတင် လုပ်ငန်းပေါင်း | - | ၃၂၇ | ခု |
| ၄။ | မိုးစပါးစိုက်ဧကစုစုပေါင်း | - | ၁၆၇၈၅၂၈၆ | ဧက |
| ၅။ | နွေစပါးစိုက်ဧကစုစုပေါင်း | - | ၁၀၄၂၀၅၆ | ဧက |
| ၆။ | စုစုပေါင်းစပါးထုတ်လုပ်မှု | - | ၁၂၄၆၅၁၇ | တင်း(ထောင်ပေါင်း) |

### မွေးမြူရေးနှင့်ရေလုပ်ငန်းကဏ္ဍ (၃၁-၁၂-၂၀၁၀)

| | | | | |
|---|---|---|---|---|
| ၁။ | ကျွဲ၊ နွားကောင်ရေမွေးမြူမှု | - | ၁၆၉၆၇၇၂၃ | ကောင် |
| ၂။ | သိုး၊ ဆိတ်၊ ဝက်ကောင်ရေမွေးမြူမှု | - | ၄၃၇၅၇၄၄ | ကောင် |
| ၃။ | ကြက်၊ ဘဲကောင်ရေမွေးမြူမှု | - | ၁၈၂၆၉၉၇၆၉ | ကောင် |
| ၄။ | ငါးမွေးမြူရေးကန် | - | ၂၁၈၃၉၂ | ဧက |
| ၅။ | ပုစွန်မွေးမြူရေးကန် | - | ၂၂၄၉၄၉ | ဧက |
| ၆။ | ပျားရည်ထုတ်လုပ်မှု | - | ၂၆၈၈၆၃၄ | ပေါင် |

### ပို့ဆောင်ရေးနှင့်လမ်းပန်းဆက်သွယ်ရေးကဏ္ဍ (၃၁-၁၂-၂၀၁၀)

၁။ **ရထားပို့ဆောင်ရေး**

| | | | |
|---|---|---|---|
| (က) ရထားသံလမ်းမိုင် | - | ၄၆၆၄. ၄၂ | မိုင် |
| (ခ) ဘူတာရုံ | - | ၉၀၁ | ခု |
| (ဂ) တံတားကြီး(ပေ ၁၈၀အထက်) | - | ၅၂၂ | စင်း |
| (ဃ) တံတားငယ်(ပေ ၁၈၀၀အောက်) | - | ၆၂၄၈ | စင်း |

၂။ **လေကြောင်းပို့ဆောင်ရေး**

| | | | |
|---|---|---|---|
| (က) ပြေးလမ်းပေ ၁၀၀၀၀ အထက် | - | ၁၁ | ကွင်း |
| (ခ) ပြေးလမ်းပေ ၅၀၀၀အထက် လေယာဉ်ကွင်း | - | ၂၇ | ကွင်း |
| (ဂ) ပြေးလမ်းပေ ၅၀၀၀အောက် လေယာဉ်ကွင်း | - | ၃၁ | ကွင်း |



၃။ **ရေကြောင်းပို့ဆောင်ရေး**

| | | | |
|---|---|---|---|
| (က) ဆိပ်ခံတံတား(ပြည်တွင်းသင်္ဘော) | - | ၉၃ | စင်း |
| (ခ) ဆိပ်ခံတံတား(နိုင်ငံခြားသင်္ဘော) | - | ၂၅ | စင်း |

### ဆက်သွယ်ရေးကဏ္ဍ (၃၁-၁၂-၂၀၁၀)

| | | | | |
|---|---|---|---|---|
| ၁။ | စာတိုက်စခန်း | - | ၁၃၈၀ | ခု |
| ၂။ | ကြေးနန်းရုံး | - | ၅၁၆ | ရုံး |
| ၃။ | တယ်လီဖုန်းရုံးများ | - | ၉၂၂ | ရုံး |
| ၄။ | မိုဘိုင်းတယ်လီဖုန်းလုပ်ငန်းများ | - | ၁၄၃၅၂၅၀ | လုံး |
| ၅။ | အီးမေးလ်၊ အင်တာနက် | - | ၇၅၅၇ | ခု |
| ၆။ | ပြည်တွင်းဂြိုလ်တုဆက်သွယ်ရေးမြေပြင်စခန်း | - | ၂၀၀၀ | ခု |
| ၇။ | ပြည်တွင်းဂြိုလ်တုဆက်သွယ်ရေးချယ်နယ် | - | ၈၀၀၀ | ခု |
| ၈။ | အပြည်ပြည်ဆိုင်ရာတယ်လီဖုန်းချယ်နယ် | - | ၄၂၉၅ | ခု |
| ၉။ | ပြည်ပဂြိုလ်တုဆယ်သွယ်ရေးမြေပြင်စခန်း | - | ၂ | ခု |
| ၁၀။ | ပြည်ပဂြိုလ်တုဆယ်သွယ်ရေးချယ်နယ် | - | ၈၀၄ | ခု |

### လျှပ်စစ်စွမ်းအားကဏ္ဍ (၃၁-၁၂-၂၀၁၀)

| | | | |
|---|---|---|---|
| ၁။ | ဓာတ်အားသုံးစွဲမှု (ယူနစ်သန်းပေါင်း) | - | ၇၇၂၀. ၄၂၁ |
| ၂။ | ရေအားလျှပ်စစ်စက်ရုံ | - | ၄၂၄၁ ရုံ |
| ၃။ | တည်ဆောက်ဆဲရေအားလျှပ်စစ်စီမံကိန်းများ | - | ၄၇ ခု |
| ၄။ | တည်ဆောက်မည့်ရေအားလျှပ်စစ်စီမံကိန်းများ | - | ၂၉ ခု |

### စွမ်းအင်ကဏ္ဍ (၃၁-၁၂-၂၀၁၀)

| | | | | |
|---|---|---|---|---|
| ၁။ | ရေနံမြေ | - | ၃၇ ခု | |
| ၂။ | ရေနံစိမ်းထုတ်လုပ်မှု | - | ၆၇၈၁၂၀၄ | စည် |
| ၃။ | သဘာဝဓာတ်ငွေ့ထုတ်လုပ်မှု | - | ၄၄၉၀၈၂. ၉၃ | ကုဗပေ(သန်း) |
| ၄။ | ရေနံစိမ်းချက်လုပ်မှု | - | ၂၂၀. ၄ | ဂါလန်(သန်း) |

ရတနာ-ရန်ကုန် ၂၄ လက်မ ပြည်တွင်းသုံး ကမ်းလွန်သဘာဝဓာတ်ငွေ့ပိုက်လိုင်းကို ၁၄-၃-၂၀၀၉ ရက်နေ့တွင် စတင်သွယ်တန်းတည်ဆောက်ပြီး ၁၂-၆-၂၀၁၀ မှစ၍ တစ်နေ့လျှင် ကုဗပေ သန်းပေါင်း ၁၅၀ကို အောင်မြင်စွာ ပို့လွှတ်ပြီး ပြည်တွင်း

လိုအပ်ချက်ကို ဖြည့်ဆည်းပေးလျက်ရှိသည်။ မုတ္တမကမ်းလွန်ရှိ ရတနာသဘာဝဓာတ်ငွေ့မြေမှ ရန်ကုန်မြို့ ကမ်းလွန်သဘာဝဓာတ်ငွေ့ ထိန်းချုပ်တိုင်းတာ ဖြန့်ဖြူးရေးစခန်း(ရွာမ)အထိ ကုန်းတွင်းပိုင်း ပိုက်လိုင်းအရှည် ၈၅ဒသမ၄၃ မိုင်နှင့် ကမ်းလွန် ၉၄ဒသမ၅၂ မိုင် စုစုပေါင်း ၁၇၉ဒသမ၉၅ မိုင် ဆက်သွယ်ခင်းကျင်း ဆောင်ရွက်ထားသည်။

## စက်မှုလက်မှုကဏ္ဍ (၃၁-၁၂-၂၀၁၀)

| | | | |
|---|---|---|---|
| ၁။ | စက်မှုဇုန်များ | - | ၂၈ ခု |
| ၂။ | ပုဂ္ဂလိကစက်ရုံ | - | ၄၃၄၀၈ ရုံ |
| ၃။ | အိမ်တွင်းစက်မှုလက်မှုလုပ်ငန်းများ | - | ၁၁၇၄၃ ခု |
| ၄။ | အမှတ်(၁)စက်မှုနိုင်ငံပိုင်စက်ရုံအလုပ်ရုံများ | - | ၆၈၉ ရုံ |
| ၅။ | အမှတ်(၂)စက်မှုနိုင်ငံပိုင်စက်ရုံအလုပ်ရုံများ | - | ၂၆ ရုံ |

## သိပ္ပံနှင့်နည်းပညာကဏ္ဍ (၃၁-၁၂-၂၀၁၀)

| | | | |
|---|---|---|---|
| ၁။ | နည်းပညာတက္ကသိုလ်များ | - | ၃၀ |
| ၂။ | ကွန်ပျူတာတက္ကသိုလ်များ | - | ၂၅ |
| ၃။ | နည်းပညာကောလိပ်များ | - | ၄ |
| ၄။ | လေကြောင်းတက္ကသိုလ် | - | ၁ |

## ပညာရေးကဏ္ဍ (၃၁-၁၂-၂၀၁၀)

| | | | |
|---|---|---|---|
| ၁။ | အခြေခံပညာကျောင်းပေါင်း | - | ၄၀၈၇၆ |
| ၂။ | ဆရာ၊ ဆရာမအင်အား | - | ၂၇၀၁၉၈ |
| ၃။ | ကျောင်းသားအင်အား | - | ၈၁၅၈၉၇၆ |
| ၄။ | အဆင့်မြင့်ပညာမြှင့်တင်မှု (တက္ကသိုလ်၊ ကောလိပ်၊ ဒီဂရီကောလိပ်) | - | ၆၄ |
| ၅။ | တက္ကသိုလ်/ ကောလိပ်ဆရာ၊ ဆရာမအင်အား | - | ၁၁၅၄၆ |
| ၆။ | ကျောင်းသားအင်အား | - | ၄၇၃၁၂၈ |



## ကျန်းမာရေးကဏ္ဍ (၃၁-၁၂-၂၀၁၀)

| | | | |
|---|---|---|---|
| ၁။ | ဆေးရုံများတိုးချဲ့မြှင့်တင်မှု | - | ၈၉၈ |
| ၂။ | တိုင်းရင်းဆေးရုံ | - | ၁၄ |
| ၃။ | ကျန်းမာရေးလုပ်ငန်းဌာနများ | - | ၂၀၂၂ |
| ၄။ | တက္ကသိုလ်များ | - | ၁၅ |
| ၅။ | သင်တန်းကျောင်းများ | - | ၄၃ |

## ပြန်ကြားရေးနှင့်ပြည်သူ့ဆက်ဆံရေးကဏ္ဍ (၃၁-၁၂-၂၀၁၀)

| | | | |
|---|---|---|---|
| ၁။ | ရုပ်သံထပ်ဆင့်လွှင့်စက်ရုံများ | - | ၂၁၉ |
| ၂။ | ပြန်/ဆက် စာကြည့်တိုက်များ | - | ၄၀၀ |
| ၃။ | ဌာနဆိုင်ရာစာကြည့်တိုက် | - | ၈၇၀ |
| ၄။ | ကျေးရွာကိုယ့်အားကိုယ်ကိုးစာကြည့်တိုက်များ | - | ၅၅၇၅၅ |
| ၅။ | e-Library များ | - | ၁၂၅ |
| ၆။ | သတင်းစာတိုက်များ | - | ၄ |
| ၇။ | ကိုယ်ပွားသတင်းစာတိုက်များ | - | ၉ |

## ဖွံ့ဖြိုးရေးဒေသကြီး (၂၄)ခု

၁။ **ကချင်ပြည်နယ်**
(က) မြစ်ကြီးနားဒေသ
(ခ) ဗန်းမော်ဒေသ

၂။ **ကယားပြည်နယ်**
လွိုင်ကော်ဒေသ

၃။ **ကရင်ပြည်နယ်**
ဘားအံဒေသ

၄။ **ရခိုင်ပြည်နယ်**
စစ်တွေဒေသ

၅။ **ရှမ်းပြည်နယ်**
(က) လားရှိုးဒေသ
(ခ) ကျိုင်းတုံဒေသ
(ဂ) တောင်ကြီးဒေသ
(ဃ) ပင်လုံဒေသ

၆။ **စစ်ကိုင်းတိုင်းဒေသကြီး**
(က) မုံရွာဒေသ
(ခ) စစ်ကိုင်းဒေသ
(ဂ) ကလေးဒေသ

၇။ **တနင်္သာရီတိုင်းဒေသကြီး**
(က) မြိတ်ဒေသ
(ခ) ထားဝယ်ဒေသ

၈။ **ပဲခူးတိုင်းဒေသကြီး**
(က) ပဲခူးဒေသ
(ခ) ပြည်ဒေသ

၉။ **မကွေးတိုင်းဒေသကြီး**
(က) မကွေးဒေသ
(ခ) ပခုက္ကူဒေသ

၁၀။ **မန္တလေးတိုင်းဒေသကြီး**
(က) မန္တလေးဒေသ
(ခ) မိတ္ထီလာဒေသ
(ဂ) မြင်းခြံဒေသ

၁၁။ **ဧရာဝတီတိုင်းဒေသကြီး**
(က) ပုသိမ်ဒေသ
(ခ) ဟင်္သာတဒေသ
(ဂ) မအူပင်ဒေသ



## ပြည်နယ်/တိုင်းဒေသကြီးအလိုက် တည်ဆောက်ပြီးစီးခဲ့သော တံတားကြီးများ၊ ရေအားလျှပ်စစ်စက်ရုံများ

### ကချင်ပြည်နယ်

**တည်ဆောက်ပြီး အထူးစီမံကိန်းဝင် ပေ(၁၈၀)အထက်တံတားကြီး (၂)စင်း**

၁။ ဗလမင်းထင်တံတား (ဧရာဝတီမြစ်ကူး)
၂။ တနိုင်းတံတား (တနိုင်းချောင်း)

**တည်ဆောက်ပြီး ရေအားလျှပ်စစ်စက်ရုံများ**

| | | | |
|---|---|---|---|
| ၁။ | ပူတာအို | ၀. ၁၆၀ | မဂ္ဂါဝပ် |
| ၂။ | ဂလိုင်ချောင်း | ၁. ၂၆၀ | မဂ္ဂါဝပ် |
| ၃။ | ကျိန်ခရမ်ခ | ၂. ၅၂၀ | မဂ္ဂါဝပ် |
| ၄။ | နမ့်ခမ်းခ | ၅. ၀၀၀ | မဂ္ဂါဝပ် |
| ၅။ | တာပိန်(၁)၊ မိုးမောက်မြို့ | ၂၄၀ | မဂ္ဂါဝပ်(အကြီးစား) |

**တည်ဆောက်ဆဲ ရေအားလျှပ်စစ်စီမံကိန်းများ**

| | | | |
|---|---|---|---|
| ၁။ | ချီဖွေငယ် | ၉၉ | မဂ္ဂါဝပ်(အကြီးစား) |
| ၂။ | ယီနန် | ၁၂၀၀ | မဂ္ဂါဝပ်(အကြီးစား) |
| ၃။ | ခေါင်လံဖူး | ၂၇၀၀ | မဂ္ဂါဝပ်(အကြီးစား) |
| ၄။ | ဖီဇော | ၂၀၀၀ | မဂ္ဂါဝပ်(အကြီးစား) |
| ၅။ | ဝူဆောက် | ၁၈၀၀ | မဂ္ဂါဝပ်(အကြီးစား) |
| ၆။ | ချီဖွေ | ၂၈၀၀ | မဂ္ဂါဝပ်(အကြီးစား) |
| ၇။ | လိုက်ဇာ | ၁၉၀၀ | မဂ္ဂါဝပ်(အကြီးစား) |
| ၈။ | တာပိန်(၂) | ၁၆၈ | မဂ္ဂါဝပ်(အကြီးစား) |
| ၉။ | နော်ချမ်းခ | ၁၀၅၅ | မဂ္ဂါဝပ်(အကြီးစား) |
| ၁၀။ | ထာခ | ၆ | မဂ္ဂါဝပ်(အလတ်စား) |
| ၁၁။ | ဧရာဝတီမြစ်ဆုံ | ၆၀၀၀ | မဂ္ဂါဝပ်(အကြီးစား) (ရပ်ဆိုင်း) |

**တည်ဆောက်မည့် ရေအားလျှပ်စစ်စီမံကိန်းများ**

| | | | |
|---|---|---|---|
| ၁။ | အူမွန်ခ | ၁၀ | မဂ္ဂါဝပ်(အကြီးစား) |

| | | |
|---|---|---|
| ၂။ မလိချောင်း | ၁၀. ၅ | မဂ္ဂါဝပ်(အကြီးစား) |
| ၃။ တဘက်ရန် | ၂၄ | မဂ္ဂါဝပ်(အကြီးစား) |
| ၄။ တရွန်ခ | ၁၅၀ | မဂ္ဂါဝပ်(အကြီးစား) |
| ၅။ တနိုင်းခ | ၁၅ | မဂ္ဂါဝပ်(အကြီးစား) |
| ၆။ တဝမ်ခ | ၅၀ | မဂ္ဂါဝပ်(အကြီးစား) |
| ၇။ နမ့်မလိခ | ၁၂၃ | မဂ္ဂါဝပ်(အကြီးစား) |
| ၈။ ဗန်းမော် | ၃၀၀ | မဂ္ဂါဝပ်(အကြီးစား) |

## ကယားပြည်နယ်

**တည်ဆောက်ပြီး ပေ (၁၈၀)အထက်တံတား**

ထူးချောင်းတံတား (ဖားဆောင်း)

**တည်ဆောက်ပြီး ရေအားလျှပ်စစ်စက်ရုံများ**

| | | |
|---|---|---|
| ၁။ ဘီလူးချောင်း(၂) | ၁၆၈ | မဂ္ဂါဝပ်(အကြီးစား) |
| ၃။ ဘီလူးချောင်း(၁) | ၂၈ | မဂ္ဂါဝပ်(အကြီးစား) |

**တည်ဆောက်ဆဲ ရေအားလျှပ်စစ်စီမံကိန်း**

| | | |
|---|---|---|
| ၁။ ဘီလူးချောင်း(၃) | ၅၂ | မဂ္ဂါဝပ်(အကြီးစား) |
| ၂။ ရွာသစ် | ၆၀၀ | မဂ္ဂါဝပ်(အကြီးစား) |
| ၃။ နမ့်တဘက် | ၁၁၀ | မဂ္ဂါဝပ်(အကြီးစား) |
| ၄။ နမ့်ပွန် | ၁၃၀ | မဂ္ဂါဝပ်(အကြီးစား) |

## ကရင်ပြည်နယ်

**တည်ဆောက်ပြီး အထူးစီမံကိန်းဝင် ပေ(၁၈၀)အထက် တံတားကြီး(၃)စင်း**

| | | |
|---|---|---|
| ၁။ သံလွင်တံတား (ဘားအံ) | - | အရှည်ပေ ၂၂၅၂ |
| ၂။ ဂျိုင်းတံတား(ဇာသပြင်) | - | အရှည်ပေ ၂၉၀၀ |
| ၃။ ဂျိုင်းတံတား(ကော့ကရိတ်) | - | အရှည်ပေ ၁၂၀၀ |



**တည်ဆောက်ပြီး ရေအားလျှပ်စစ်စက်ရုံ**

| | | |
|---|---|---|
| ၁။ ဖာပွန် | ၀. ၀၆၂ | မဂ္ဂါဝပ် |

**တည်ဆောက်ဆဲ ရေအားလျှပ်စစ်စီမံကိန်း**

| | | |
|---|---|---|
| ဟတ်ကြီး | ၁၃၆၀ | မဂ္ဂါဝပ်(အကြီးစား) |

**တည်ဆောက်မည့် ရေအားလျှပ်စစ်စီမံကိန်းများ**

| | | |
|---|---|---|
| ၁။ သောက်ရေခပ်(၁) | ၁၅၀ | မဂ္ဂါဝပ်(အကြီးစား) |
| ၂။ အထက်သံလွင်(နယ်ခြား) | ၄၀၀၀ | မဂ္ဂါဝပ်(အကြီးစား) |
| ၃။ အောက်သံလွင်(နယ်ခြား) | ၅၀၀ | မဂ္ဂါဝပ်(အကြီးစား) |
| ၄။ ဒယိုင်း | ၂၅ | မဂ္ဂါဝပ်(အကြီးစား) |
| ၅။ ယွန်းစလင်း | ၄၀၀ | မဂ္ဂါဝပ်(အကြီးစား) |
| ၆။ သောင်ရင်း(၁) | ၁၁၀ | မဂ္ဂါဝပ်(အကြီးစား) |
| ၇။ သောင်ရင်း(၂) | ၂၃၁ | မဂ္ဂါဝပ်(အကြီးစား) |
| ၈။ သောင်ရင်း(၃) | ၂၈၈ | မဂ္ဂါဝပ်(အကြီးစား) |

## ချင်းပြည်နယ်

**တည်ဆောက်ပြီး ပေ(၁၈၀)အထက် တံတားများ**

| | |
|---|---|
| ၁။ နတ်ဇံတံတား(တွန်းဇံ) | အရှည်ပေ ၂၇၀ |
| ၂။ လည်မျိုတံတား(မတူပီ) | အရှည်ပေ ၂၄၀ |
| ၃။ ဗားရ်တံတား | အရှည်ပေ ၃၄၀ |
| ၄။ ကပ်တဲလ်တံတား | အရှည်ပေ ၄၈၀ |
| ၅။ မံဆောင်းတံတား | အရှည်ပေ ၄၆၀ |

**တည်ဆောက်ပြီး ရေအားလျှပ်စစ်စက်ရုံများ**

| | | |
|---|---|---|
| ၁။ ဇာလွီး | ၀. ၄၀၀ | မဂ္ဂါဝပ် |
| ၂။ ဒေါင်းဗား | ၀. ၄၀၀၀ | မဂ္ဂါဝပ် |
| ၃။ ငေစ်ဗား | ၁. ၁၀၀ | မဂ္ဂါဝပ် |
| ၄။ ပလက်ဝ | ၀. ၀၅၀ | မဂ္ဂါဝပ် |

| | | |
|---|---|---|
| ၅။ နမ့်လောင်ချောင်း | ၀. ၂၀၀ | မဂ္ဂါဝပ် |
| ၆။ လိုင်ဗား | ၀. ၆၀၀ | မဂ္ဂါဝပ် |
| ၇။ ထွီးဆောင်း | ၀. ၂၀၀ | မဂ္ဂါဝပ် |
| ၈။ ချီချောင်း | ၀. ၂၀၀ | မဂ္ဂါဝပ် |
| ၉။ သင်းသဲချောင်း | ၀. ၀၅၀ | မဂ္ဂါဝပ် |
| ၁၀။ လိုင်ဘွန်ချောင်း | ၀. ၀၅၀ | မဂ္ဂါဝပ် |

## မွန်ပြည်နယ်

**တည်ဆောက်ပြီး အထူးစီမံကိန်းဝင် ပေ(၁၈၀)အထက် တံတားကြီး (၃)စင်း**

၁။ အတ္တရံတံတား (မော်လမြိုင်)
၂။ သံလွင်တံတား (မော်လမြိုင်)
၃။ စစ်တောင်းတံတား (မုပ္ပလင်)

**တည်ဆောက်ဆဲ ရေအားလျှပ်စစ်စီမံကိန်းများ**

| | | |
|---|---|---|
| ၁။ ဘီးလင်း | ၂၈၀ | မဂ္ဂါဝပ်(အကြီးစား) |

**တည်ဆောက်မည့် ရေအားလျှပ်စစ်စီမံကိန်းများ**

| | | |
|---|---|---|
| ၁။ မျက်တောချောင်း | ၁၀ | မဂ္ဂါဝပ်(အကြီးစား) |

## ရခိုင်ပြည်နယ်

**တည်ဆောက်ပြီး အထူးစီမံကိန်းဝင် ပေ(၁၈၀)အထက် တံတားကြီးများ**

၁။ ဒလက်ချောင်းတံတား
၂။ မြောင်းဘွေတံတား
၃။ ကစ္ဆပနဒီတံတား
၄။ တန်းလွှဲချောင်းတံတား
၅။ လမူးချောင်းတံတား
၆။ မအီချောင်းတံတား
၇။ စနဲပေါက်တံတား
၈။ လုံးတော်ပေါက်တံတား
၉။ ဒီးဒုတ်ပေါက်တံတား



၁၀။ ကိုင်းရှည်တံတား
၁၁။ ပီကောက်တံတား
၁၂။ မင်းချောင်းတံတား
၁၃။ ရာမောင်တံတား
၁၄။ ယောချောင်းတံတား
၁၅။ ဆပ်သွားတံတား
၁၆။ သံသမကြီးတံတား
၁၇။ ဝန်ဖိုက်တံတား
၁၈။ မင်းကြောင်းချောင်းတံတား
၁၉။ သဇင်တန်ပေါက်တံတား
၂၀။ သံသမချေတံတား
၂၁။ သယုတံတား(ပဲပဒို)

**တည်ဆောက်ဆဲ ရေအားလျှပ်စစ်စီမံကိန်းများ**

| | | |
|---|---|---|
| ၁။ သူငွေး | ၁၁၁. ၀ | မဂ္ဂါဝပ်(အကြီးစား) |
| ၂။ အမ်းချောင်း | ၁၀. ၀ | မဂ္ဂါဝပ်(အကြီးစား) |
| ၃။ စိုင်းဒင် | ၇၆. ၅ | မဂ္ဂါဝပ်(အကြီးစား) |
| ၄။ လေးမြို့ | ၅၀၀. ၀ | မဂ္ဂါဝပ်(အကြီးစား) |

**တည်ဆောက်မည့် ရေအားလျှပ်စစ်စီမံကိန်းများ**

| | | |
|---|---|---|
| ၁။ သံတွဲ | ၃၉ | မဂ္ဂါဝပ် |
| ၂။ ကျိန္တလီ | ၂၈ | မဂ္ဂါဝပ် |

## ရှမ်းပြည်နယ်

**တည်ဆောက်ပြီး စီမံကိန်းဝင်တံတားကြီး (၈)စင်း**

၁။ သံလွင်တံတား (တာကော်အက်)
၂။ သံလွင်တံတား (တာဆန်း)
၃။ နမ့်တိန်တံတား (ကွမ်းလုံ)
၄။ မတ်လန်းတံတား (လဲချား)

၅။ လင်းခေးတံတား (လင်းခေး)
၆။ သံလွင်တံတား (တာပါး)
၇။ ဒုဋ္ဌဝတီတံတား (နောင်ချို)
၈။ ရွှေလီတံတား(နမ့်ခမ်း)
၉။ လိန်းလီတံတား(ပင်လောင်း)

**တည်ဆောက်ပြီး ရေအားလျှပ်စစ်စက်ရုံများ**

၁။ ဇော်ဂျီ(၁) ၁၈ မဂ္ဂါဝပ်(အကြီးစား)
၂။ ဇော်ဂျီ(၂) ၁၂ မဂ္ဂါဝပ်(အကြီးစား)
၃။ ရွှေလီ(၁) ၆၀၀ မဂ္ဂါဝပ်(အကြီးစား)
၄။ ကျိုင်းတောင်း ၅၄ မဂ္ဂါဝပ်(အကြီးစား)

**တည်ဆောက်ဆဲ ရေအားလျှပ်စစ်စီမံကိန်းများ**

၁။ အထက်သံလွင်(မိုင်းတုံ) ၇၁၁၀ မဂ္ဂါဝပ်(အကြီးစား)
၂။ အထက်ကျိုင်းတောင်း ၅၂.၅ မဂ္ဂါဝပ်(အကြီးစား)
၃။ ရွှေလီ(၂) ၆၄၀ မဂ္ဂါဝပ်(အကြီးစား)
၄။ ရွှေလီ(၃) ၈၀၀ မဂ္ဂါဝပ်(အကြီးစား)
၅။ အထက်သံလွင်(မိုင်းတုံ) ၁၄၀၀ မဂ္ဂါဝပ်(အကြီးစား)
၆။ နမ့်လွေ့/နမ့်ခ ၆၅၂ မဂ္ဂါဝပ်(အကြီးစား)
၇။ အထက်ဘီလူးချောင်း ၁၆ မဂ္ဂါဝပ်(အကြီးစား)
၈။ နောင်ဖ/မန်တောင်း ၁၂၀၀ မဂ္ဂါဝပ်(အကြီးစား)

**တည်ဆောက်မည့် ရေအားလျှပ်စစ်စီမံကိန်းများ**

၁။ နမ္မတူ-နမ့်လန် ၁၇၇ မဂ္ဂါဝပ်(အကြီးစား)
၂။ နမ့်ကုတ် ၅၅ မဂ္ဂါဝပ်(အကြီးစား)
၃။ နမ့်မယ်ဆိုင် ၁၂.၈ မဂ္ဂါဝပ်(အကြီးစား)
၄။ မန်ဘင်း ၈၀၀ မဂ္ဂါဝပ်(အကြီးစား)

**တည်ဆောက်ပြီးကျောက်မီးသွေးသုံး ရေနွေးငွေ့ကဓာတ်အားပေးစက်ရုံ**

၁။ တီကျစ် ၁၂၀ မဂ္ဂါဝပ်(အကြီးစား)



## စစ်ကိုင်းတိုင်းဒေသကြီး

**တည်ဆောက်ပြီး အထူးစီမံကိန်းဝင်ပေ(၁၈၀)အထက် တံတားကြီးများ**

၁။ မဲဇာတံတား (အင်းတော်)
၂။ ရွှေလီတံတား (ကသာ)
၃။ ချင်းတွင်းတံတား (မုံရွာ)
၄။ မြစ်သာတံတား (ကလေးဝ)
၅။ ဥရုတံတား (ဟုမ္မလင်း)

**တည်ဆောက်ဆဲ တံတား (၂)စင်း**

၁။ ရတနာသိဃ်တံတား(အထူးစီမံကိန်းဝင်တံတား)
၂။ ဇော်ချောင်းတံတား

**တည်ဆောက်မည့် တံတား(၁)စင်း**

ယက်ဖချောင်းတံတား

**တည်ဆောက်ပြီး ရေအားလျှပ်စစ်စက်ရုံ**

၁။ သဖန်းဆိပ် ၃၀.၀၀ မဂ္ဂါဝပ်(အကြီးစား)

**တည်ဆောက်ဆဲ ရေအားလျှပ်စစ်စီမံကိန်းများ**

၁။ ထမံသိ ၁၂၀၀ မဂ္ဂါဝပ်(အကြီးစား)
၂။ မဏိပူရ ၃၈၀ မဂ္ဂါဝပ်(အကြီးစား)
၃။ ရွှေစာရေး ၆၆၀ မဂ္ဂါဝပ်(အကြီးစား)
၄။ မော်လိုက် ၅၂၀ မဂ္ဂါဝပ်(အကြီးစား)

**တည်ဆောက်ဆဲ ကျောက်မီးသွေးသုံးဓာတ်အားပေးစက်ရုံစီမံကိန်း**

၁။ ကလေးဝ ၆၀၀ မဂ္ဂါဝပ်(အကြီးစား)

**တည်ဆောက်မည့် ရေအားလျှပ်စစ်စီမံကိန်း**

၁။ ပြင်သာ ၄၀ မဂ္ဂါဝပ်(အကြီးစား)

## တနင်္သာရီတိုင်းဒေသကြီး

**တည်ဆောက်ပြီး အထူးစီမံကိန်းဝင် ပေ(၁၈၀)အထက် တံတားကြီး(၇)စင်း**

၁။ ဝင်းဝတံတား (သရက်ချောင်း)
၂။ ပုလောက်တံတား (ပုလော)
၃။ ပုလောတံတား (ပုလော)
၄။ ကျွဲကူး-ကျောက်ဖျာတံတား (မြိတ်)
၅။ တနင်္သာရီမြစ်ကူးတံတား (တနင်္သာရီ)
၆။ လေညှာ-မဏ္ဍိုင်တံတား (ဘုတ်ပြင်း)
၇။ ပသောင်းတံတား

**တည်ဆောက်ဆဲ ရေအားလျှပ်စစ်စီမံကိန်းများ**

| | | |
|---|---|---|
| ၁။ တနင်္သာရီ | ၆၀၀ | မဂ္ဂါဝပ်(အကြီးစား) |
| ၂။ သကျက် | ၂၀ | မဂ္ဂါဝပ်(အကြီးစား) |
| ၃။ အညာဖျား | ၉ | မဂ္ဂါဝပ်(အလတ်စား) |

**တည်ဆောက်ဆဲ ကျောက်မီးသွေးသုံးဓာတ်အားပေးစက်ရုံစီမံကိန်းများ**

| | | |
|---|---|---|
| ၁။ ကော့သောင်း | ၆ | မဂ္ဂါဝပ်(အလတ်စား) |

**တည်ဆောက်မည့် ရေအားလျှပ်စစ်စီမံကိန်းများ**

| | | |
|---|---|---|
| ၁။ ဆာရာဝ | ၁၁ | မဂ္ဂါဝပ်(အကြီးစား) |
| ၂။ နမ့်ခွိုင် | ၁၅ | မဂ္ဂါဝပ်(အကြီးစား) |
| ၃။ သိန်းခွန် | ၂၅ | မဂ္ဂါဝပ်(အကြီးစား) |
| ၄။ ကလုံကရာ | ၄၀ | မဂ္ဂါဝပ်(အကြီးစား) |

## ပဲခူးတိုင်းဒေသကြီး

**တည်ဆောက်ပြီး အထူးစီမံကိန်းဝင်ပေ(၁၈၀)အထက်တံတားကြီး(၈)စင်း**

၁။ နဝဒေးတံတား (ပြည်) (ဧရာဝတီမြစ်ကူး)
၂။ ခပေါင်းတံတား (တောင်ငူ)
၃။ စစ်တောင်းတံတား (ရွှေကျင်-မဒေါက်)



၄။ ဆွာချောင်းတံတား(ရေတာရှည်)
၅။ ပဲခူးတံတား
၆။ နဂါးပေါက်ချောင်းတံတား
၇။ ပဲခူး-စစ်တောင်းတူးမြောင်းတံတား
၈။ မြို့ချောင်းတံတား (အထူးစီမံကိန်းဝင်)

**တည်ဆောက်ဆဲ ပေ၁၈၀အထက်တံတားကြီး**

၁။ စစ်တောင်းတံတား(နတ်သံကွင်း) (အထူးစီမံကိန်းဝင်)

**တည်ဆောက်မည့် တံတား(၃)စင်း**

၁။ စစ်တောင်းမြစ်ကူးတံတား (၁) (အထူးစီမံကိန်းဝင်)
၂။ စစ်တောင်းမြစ်ကူးတံတား (၂) (အထူးစီမံကိန်းဝင်)
၃။ စစ်တောင်းမြစ်ကူးတံတား (၃) (အထူးစီမံကိန်းဝင်)

**တည်ဆောက်ပြီး ရေအားလျှပ်စစ်စက်ရုံများ**

| | | |
|---|---|---|
| ၁။ ဇောင်းတူ | ၂၀ | မဂ္ဂါဝပ်(အကြီးစား) |
| ၂။ ရဲနွယ် | ၂၅ | မဂ္ဂါဝပ်(အကြီးစား) |
| ၃။ ခပေါင်း | ၃၀ | မဂ္ဂါဝပ်(အကြီးစား) |

**တည်ဆောက်ဆဲရေအားလျှပ်စစ်စီမံကိန်းများ**

| | | |
|---|---|---|
| ၁။ ဖြူးချောင်း | ၄၀ | မဂ္ဂါဝပ်(အကြီးစား) |
| ၂။ ကွန်ချောင်း | ၆၀ | မဂ္ဂါဝပ်(အကြီးစား) |
| ၃။ ရွှေကျင် | ၇၅ | မဂ္ဂါဝပ်(အကြီးစား) |
| ၄။ သောက်ရေခပ်(၂) | ၁၄၀ | မဂ္ဂါဝပ်(အကြီးစား) |
| ၅။ ဘောဂတ | ၁၆၈ | မဂ္ဂါဝပ်(အကြီးစား) |

## မကွေးတိုင်းဒေသကြီး

**တည်ဆောက်ပြီးအထူးစီမံကိန်းဝင်ပေ(၁၈၀)အထက်တံတားကြီး (၁၀)စင်း**

၁။ အနော်ရထာတံတား (ချောက်) (ဧရာဝတီမြစ်ကူး)
၂။ လောင်ဂတ်တံတား (ဂန့်ဂေါ)
၃။ ဧရာဝတီတံတား (မကွေး)

၄။ ရွှေချောင်းတံတား
၅။ ဘွက်ကြီးတံတား
၆။ အမှတ်(၁)ပေါက်တံတား(အုန်းတော)
၇။ ဒေါင်းနေချောင်းတံတား
၈။ ဧရာဝတီမြစ်ကူးတံတား(ပခုက္ကူ)
၉။ ယင်းချောင်းတံတား
၁၀။ ကျားထူးတံတား

**တည်ဆောက်ဆဲ အထူးစီမံကိန်းဝင်တံတား**

၁။ ဧရာဝတီမြစ်ကူးတံတား(မလွန်)

**ပြေးလမ်း ပေ(၁၀၀၀)နှင့် ပေ(၅၀၀၀)အထက်လေယာဉ်ကွင်းသစ်များ**

၁။ မကွေး
၂။ ကျောက်ထု
၃။ ပခုက္ကူ

**တည်ဆောက်ပြီး ရေအားလျှပ်စစ်ရုံ**

| | | |
|---|---|---|
| မုန်းချောင်း | ၇၅ | မဂ္ဂါဝပ်(အကြီးစား) |

**တည်ဆောက်ဆဲ ရေအားလျှပ်စစ်စီမံကိန်းများ**

| | | |
|---|---|---|
| ၁။ အထက်ပုံးရွှာ | ၁၅၀ | မဂ္ဂါဝပ်(အကြီးစား) |

**တည်ဆောက်မည့် ရေအားလျှပ်စစ်စီမံကိန်း**

| | | |
|---|---|---|
| မင်းတုန်း | ၁၈ | မဂ္ဂါဝပ်(အကြီးစား) |

**မန္တလေးတိုင်းဒေသကြီး**

**တည်ဆောက်ပြီး အထူးစီမံကိန်းဝင်ပေ(၁၈၀)အထက်တံတားကြီး(၇)စင်း**

၁။ ဒုဋ္ဌဝတီတံတား (တံတားဦး)
၂။ တံငါတံတား (မတ္တရာ)
၃။ မြစ်ငယ်တံတား (စဉ့်ကိုင်)
၄။ ဧရာဝတီတံတား (ရတနာပုံ) (အမရပူရ)
၅။ နားငွေ့ချောင်းကျတံတား (ရွှေစာရံ) (ပေ ၁၅၀သာ)



၆။ ကျွဲရှင်းတံတား
၇။ ပြည်ညောင်တံတား

**တည်ဆောက်ပြီး ရေအားလျှပ်စစ်စက်ရုံများ**

| | | |
|---|---|---|
| ၁။ ကင်းတား | ၅၆ | မဂ္ဂါဝပ်(အကြီးစား) |
| ၂။ ဆည်တော်ကြီး | ၂၅ | မဂ္ဂါဝပ်(အကြီးစား) |
| ၃။ ပေါင်းလောင်း | ၂၈၀ | မဂ္ဂါဝပ်(အကြီးစား) |
| ၄။ ရဲရွာ | ၇၉၀ | မဂ္ဂါဝပ်(အကြီးစား |

**တည်ဆောက်ဆဲ ရေအားလျှပ်စစ်စီမံကိန်းများ**

| | | |
|---|---|---|
| ၁။ အထက်ရဲရွာ | ၁၄၀ | မဂ္ဂါဝပ်(အကြီးစား) |
| ၂။ အထက်ပေါင်းလောင်း | ၁၄၀ | မဂ္ဂါဝပ်(အကြီးစား) |
| ၃။ နန်ချို | ၄၀ | မဂ္ဂါဝပ်(အကြီးစား) |
| ၄။ အထက်ဆည်တော်ကြီး | ၆၀ | မဂ္ဂါဝပ်(အကြီးစား) |

**ရန်ကုန်တိုင်းဒေသကြီး**

**အထူးစီမံကိန်းဝင်တံတားကြီး(၁၀)စင်း**

၁။ အောင်ဇေယျတံတား (အင်းစိန်)
၂။ မဟာဗန္ဓုလတံတား (ပုဇွန်တောင်)
၃။ ငမိုးရိပ်တံတား (ကမာကြည်)
၄။ လှိုင်မြစ်ကူးတံတား (ရွှေပြည်သာ)
၅။ လှိုင်မြစ်တံတား (မြို့ချောင်း)
၆။ ဘောလယ်မြစ်တံတား (ရေပေါ်သောင်)
၇။ ဒဂုံတံတား (ဆိပ်ကမ်းမြို့နယ်)
၈။ ပန်းလှိုင်တံတား
၉။ တွံတေးတံတား
၁၀။ ငမိုးရိပ်တံတား(သဃ်န်းကျွန်း)

**တည်ဆောက်ဆဲ တံတား**

ဘော်ချောင်းတံတား (သန်လျင်)

